(ခ) အစည်းအဝေးအား ရွှေ့ဆိုင်းရန် အခြားကိစ္စရပ် သို့မဟုတ် အရေးကြီးသော အကြောင်းပြချက်များ မရှိလျှင် ဘုတ်အဖွဲ့အစည်းအဝေးများအား သုံးလလျှင်တစ်ကြိမ်ထက်မနည်း စေဘဲကျင်းပမည်။ ဘုတ်အဖွဲ့အစည်းအဝေးများအား ပယ်ဖျက်သောအခြေအနေတွင် ဒါရိုက်တာများထံ၌ ကွဲပြားသော သဘောထားများ မရှိလျှင်ဒါရိုက်တာတစ်ဦးစီ၏ ဘုတ်အဖွဲ့ အတွင်းရေးမှူးမှ အခါအားလျော်စွာသတ်မှတ်ထားသောနေရာ၌ဘုတ် အဖွဲ့ရှိ ဒါရိုက်တာများအား အသိပေးချက်ကို (၇) ရက်ကြိုတင်၍ ပေးမည်ဖြစ်သည်။ ပုံမှန်အစည်းအဝေးအား ကျင်းပမည်ဆိုလျှင် ထိုသို့သောအသိပေးချက်တွင် အခြားအရာများ အနက် အစည်းအဝေး၌ ဆွေးနွေးရန်အတွက်အကျိုးအကြောင်းသင့်သော ဆွေးနွေးမည့်အချက်အလက်များအားသင့်တော်သောစာရွက်စာတမ်းများဖြင့်ဖော်ပြထားသည့် လုပ်ငန်းစဉ်တစ်ခု ပါဝင်မည်ဖြစ်သည်။

(b) Board meetings shall be held not less than once every three months except if there no other cases or important reasons to adjourned the meeting. Unless otherwise agreed to by the directors, in which event the board meeting may be waived or canceled, seven (7) days notice shall be given to each of the Directors of all meetings of the Board, at the address notified from time to time by each Director to the Secretary of the Board. If in the normal meeting shall be convened, each such notice shall contain, inter alia, an agenda specifying in reasonable detail the matters to be discussed at the relevant meeting, accompanied by any relevant papers for discussion at such meetings.

(ဂ) သင့်တော်သော စီးပွားရေးအား ညှိနှိုင်းသည့်အချိန်တွင် ဘုတ်အဖွဲ့ အစည်းအဝေးဖြစ်မြောက်ရန် အနည်းဆုံးလိုအပ်သည့် လူဦးရေမှာ အဖွဲ့ (ခ) မှ ခန့်အပ်ထားသော ဒါရိုက်တာ နှစ် (၂) ဦး ပါဝင်ရမည် ဖြစ်သည်။ အစည်းအဝေး တက်ရောက်ရမည့် အချိန်၏ နာရီဝက်အတွင်း၌ အစည်းအဝေးဖြစ်မြောက်ရန် အနည်းဆုံးလိုအပ် သည့် လူဦးရေမှာ တက်ရောက်လာခြင်း မရှိလျှင် သို့မဟုတ် တက်ရောက်ရန် ပျက်ကွက်လျှင် တက်ရောက်သော ဒါရိုက်တာ(များ)မှ သတ်မှတ်ထားသော နေရာနှင့် မူလရက်စွဲအပြီး စီးပွားရေးလုပ်ကိုင်ရာ သုံးရက်မြောက်နေ့တွင် အစည်း အဝေးအား ရွှေ့ဆိုင်းမည်။ ရွှေ့ဆိုင်းသော အစည်းအဝေး၏ အသိပေးချက်အား ကုမ္ပဏီ၏ အတွင်းရေးမှူးမှ ပေးအပ်မည်။

(c) The quorum at a Board meeting shall be two (2) Directors appointed by Party B present at the time when the relevant business is transacted. If a quorum is not present within

half an hour of the time appointed for the meeting or ceases to be present, the Director(s) present shall adjourn the meeting to a specified place and time three business days after the original date. Notice of the adjourned meeting shall be given by the secretary of the Company.

(ဃ) မည်သည့် ဘုတ်အဖွဲ့ အစည်းအဝေးတွင်မဆို ဒါရိုက်တာတိုင်းမှ မဲဆန္ဒတစ်ခုပေးမည်ဖြစ်သည်။

(d) At any Board meeting every Director shall have one vote.

(င) ရွှေ့ဆိုင်းခြင်းမရှိဘဲ ဆုံးဖြတ်မှုလုပ်ဆောင်ရန် လိုအပ်သော မည်သည့်အရေးတကြီး သို့မဟုတ် ချက်ချင်း လုပ်ဆောင်ရမည်ဖြစ်သည့် ကိစ္စအတွက်မဆို ဘုတ်အဖွဲ့၏ ဒါရိုက်တာများအားလုံးမှ လက်မှတ်ထိုးရေးသားချက်အား ဖြန့်ဝေပေးအပ်ခြင်းဖြင့် ဆုံးဖြတ်ချက်အား ခွင့်ပြုမည်။ ထိုသို့သော ဆုံးဖြတ်ချက်အား လာမည့်ဘုတ်အဖွဲ့ အစည်းအဝေး၌ အတည်ပြုမည်။

(e) For any urgent or immediate matter necessary to be decided without delay, a resolution by circulation in writing signed by all Directors of the Board may be allowed. Such resolution shall be confirmed at the next Board meeting.

(စ) အရေးတကြီး လုပ်ဆောင်ရမည်ဖြစ်သော ကိစ္စများ သို့မဟုတ် အဖွဲ့နှင့် ၎င်း၏ ကိုယ်စားလှယ် ဒါရိုက်တာမှ တက်ရောက်နိုင်ခြင်း မရှိသော အစည်းအဝေးများ အတွက် အီလက်ထရွန်နစ်စနစ်ဖြင့် ဆောင်ရွက်မည့် အစည်းအဝေးများအား ခွင့်ပြုနိုင်မည်ဖြစ်သော်လည်း ဆုံးဖြတ်ချက်များအား လာမည့်ဘုတ်အဖွဲ့ အစည်း အဝေး၌အတည်ပြုမည်။

(f) Meetings by electronic means may be allowed for urgent matters or when a party and his alternate director are unable to attend a meeting, but the resolutions shall be confirmed at the next Board meeting.

(ဆ) ဒါရိုက်တာတစ်ဦးစီ မှ သူ/သူမ၏ ရာထူးအစား အစည်းအဝေးတက်ရောက်ရန် ကုမ္ပဏီ၏ ရှယ်ယာပိုင်ဆိုင်သူဖြစ်သော ကိုယ်စားလှယ် ဒါရိုက်တာတစ်ဦး အားစာချုပ်ပါ အချက်အလက်များအရ ခန့်အပ်နိုင်ခွင့်ရှိမည်။ ထိုသို့သောကိုယ်စားလှယ်ဒါရိုက်တာ ခန့်အပ်ခြင်းအား ဘုတ်အဖွဲ့၏ခွင့်ပြုချက်ဖြင့် ကိုက်ညီ၍အကျိုးသက်ရောက်နိုင်မည်ဖြစ်သော ဒါရိုက်တာမှ ဆောင်ရွက်သည့်ရေးသားချက်ဖြင့် အသိပေး မည်ဖြစ်သည်။ မည်သည့်

အကြောင်းပြချက်နှင့်မဆို ခန့်အပ်သူသည်ဒါရိုက်တာ ရာထူးမှ ထွက်ခွာလျှင် သို့မဟုတ် ဒါရိုက်တာအဖြစ်မှ ရပ်စဲလျှင် သို့မဟုတ် ရာထူးမှ ခန့်အပ်ခြင်းခံရသူအား ထုတ်ပယ်လျှင် ထို့ကြောင့်ပင် ကိုယ်စားလှယ် ဒါရိုက်တာ
အား ရာထူးမှ ရပ်စဲမည်ဖြစ်သည်။

(g) Each Director shall be entitled to appoint an alternate director, who can be a shareholder of the Company to attend Board meetings in his/her place in accordance with the Articles. Such appointment of alternate directors shall be by notice in writing under the hand of the Director making the same and shall only be effective upon approval of the Board. An alternate director shall ipso facto vacate office if the appointer vacates office as a director or ceases to be a director for any reason whatsoever or removes the appointee from office.

(ဇ) ကုမ္ပဏီရှယ်ယာများကို ဒါရိုက်တာ၏ အရည်အချင်းအပေါ်တွင်မူတည်၍ ပိုင်ဆိုင် ခွင့်ပြုမည် မဟုတ်ပါ။ ဘုတ်အဖွဲ့အား အကျိုးရှိစေရန် ရည်ရွယ်ချက်အတွက် အရည် အချင်းညှိနှိုင်းမှု နှင့် ကျွမ်းကျင်မှုများ လိုအပ်လျှင် အထက်ပါ အခြေအနေများအရမည်သည့်ပုဂ္ဂိုလ်ကိုမဆို ဘုတ်အဖွဲ့မှ ခန့်အပ်မည်။

(h) A Director shall not be required to hold any shares in the Company by way of qualification. The Board may appoint any person under the above condition if his skill, counsel or expertise is necessary for efficient performance of the Board.`

(ဈ) ဤစာချုပ်စာတမ်းတွင် ဖော်ပြထားသော ဘုတ်အဖွဲ့မှ သတ်မှတ်ထားသည့် ကိစ္စရပ်များ၏နှင့် ပတ်သက်၍ ဘုတ်အဖွဲ့အစည်းအဝေးများတွင် ပေါ်ပေါက်လာသော မည်သည့် မေးခွန်းအားမဆို ဘုတ်အဖွဲ့၏ ဆုံးဖြတ်ချက်အဖြစ် ယူဆမည်ဖြစ်သောရည်ရွယ်ချက်များအရ မဲဆန္ဒ အများစု သို့မဟုတ် ဒါရိုက်တာအများစု၏ဆုံးဖြတ်ချက်ဖြင့်သာ ဆုံးဖြတ်မည်ဖြစ်သည်။ မဲဆန္ဒတူညီသော အခြေအနေများတွင် ဥက္ကဋ္ဌမှဒုတိယအကြိမ် သို့မဟုတ် ဆုံးဖြတ်မဲအား ပေးအပ်မည်။

(i) Subject to any Board Reserved Matters stated herein, any question arising at any meeting of the Board shall be decided by a simple majority of votes and a determination by a majority of Directors present shall for all purposes be deemed a determination of

the Board. In case of an equality of votes, the Chairman shall have a second or casting vote.

၅.၅ အထွေထွေအစည်းအဝေးနှင့် ဘုတ်အဖွဲ့အစည်းအဝေး နှစ်ခုလုံးအား သက်ရောက် နိုင်သော ပြဋ္ဌာန်းချက်များ

5.5 Provisions applicable for both General and Board Meetings

အသိပေးချက်အား အချိန်မှန်ကန်စွာ ပေးပို့နိုင်သော်လည်း အုပ်စုမှ ကြိုတင်အသိပေးခြင်း မရှိဘဲ ပျက်ကွက်ခြင်း သို့မဟုတ် ထိုသို့ (ပျက်ကွက်သော အဖွဲ့အဖြစ်) ဖြစ်စေခြင်းဖြင့် အစည်းအဝေးဖြစ်မြောက်ရန် အနည်းဆုံးလိုအပ်သည့် လူဦးရေမှာ ပြည့်စုံခြင်းမရှိလျှင် အစည်းအဝေးအား နောက်ထပ် ၁၄ ရက်အကြာတွင် တူညီသော နေရာ၊ တူညီသော အချိန်၌ ကျင်းပမည်ဖြစ်ပြီး ပျက်ကွက်သောအဖွဲ့မှ ထပ်မံတက်ရောက်ခြင်း မရှိပါက ပျက်ကွက်သောအဖွဲ့မှ တက်ရောက်၍ အစည်းအဝေးတွင် ပြုလုပ်သော ဆုံးဖြတ်ချက်များ အားလုံးအား ထောက်ခံပြီး သဘောတူညီသည့် အခြေအနေပုံစံဖြင့် အစည်းအဝေးအား ဆောင်ရွက်မည်ဖြစ်သည်။

If notice has been duly served and a quorum is not met at any meeting, where a party defaults by absenting himself without prior notice or just cause (Absenting Party), the meeting shall be adjourned a further 14 days to be held at the same place and time, and upon the failure of the Absenting Party attending; the meeting shall proceed as if the Absenting Party had attended and consented to and approved all resolutions so passed at that meeting.

၅.၆ ဘုတ်အဖွဲ့မှ သတ်မှတ်ထားသည့် ကိစ္စရပ်များ

5.6 Board Reserved Matters

အောက်ပါကိစ္စများတွင် မဲပေးရန် အခွင့်ရှိသော ဒါရိုက်တာများအားလုံး၏ တညီတညွတ်တည်းဖြစ်သော ဆုံးဖြတ်ချက် တစ်ခုတည်းဖြင့်သာ ရရှိလာသည့် ကုမ္ပဏီဒါရိုက်တာများ၏ ဆုံးဖြတ်ချက်အား လိုအပ်မည်ဖြစ်သည်။ ("**ဘုတ်အဖွဲ့မှ သတ်မှတ်ထားသည့် ကိစ္စရပ်များ**")

The following matters shall require a resolution of the Directors of the Company which shall only be passed by a unanimous decision of all of the Directors entitled to vote ("**Board Reserved Matters**"):

(က) ငွေကြေး ချေးယူခြင်း သို့မဟုတ် ရင်းနှီးမြှုပ်နှံသူများ စုဆောင်းခြင်း သို့မဟုတ် အကြွေးသင့်ခြင်း၊ ကတိပြုခြင်း သို့မဟုတ် ချေးယူမှု ပြုလုပ်ခြင်း သို့မဟုတ် ထောက်ခံထားသော

နှစ်စဉ်လည်ပတ်မှု အစီအစဉ်၊ သတ်မှတ်ထားသည့် ငွေစာရင်းနှင့်မူဝါဒများ၌ အခါအား လျော်စွာ ချမှတ်ထားသော ညွှန်ကြားချက်များထက်ကျော်လွန်သော ကြိုတင်ပေးငွေများ။

(a) the borrowing of any money or collecting investors or the incurring of any debts, commitment or the making of any loan or advance in excess of guidelines from time to time laid down in the approved annual operating plans, budgets and policies;

(ခ) ၎င်း၏ ပိုင်ဆိုင်မှုများတွင် သို့မဟုတ် ၎င်း၏ ဥားရမ်းခြင်းဆိုင်ရာ ပိုင်ဆိုင်မှုများတွင် ပေါင်နှံခြင်း၊ အပေါင်ပစ္စည်း၊ အကြွေးဖြင့် သိမ်းခြင်း၊ ပေးချေရန် အဖိုးအခ၊ အာမခံ၊ အကြွေးကျန်ငွေ၊ နစ်နာကြေး သို့မဟုတ် အကြွေးဆပ်ရန်ငွေ စသည်တို့အား ဖန်တီးခြင်း၊ ဖြစ်စေခြင်း သို့မဟုတ် ကြုံရစေခြင်း သို့မဟုတ် သို့မဟုတ် ညွှန်ကြားချက်များထက် ကျော်လွန်သောကြိုတင် ပေးငွေများ။

(b) the creating, incurring or suffering to exist of any mortgage, pledge, lien, charge, security interest, equity, claim or encumbrance on or with respect to, or lease of, any of its property or assets in excess of the said guidelines;

(ဂ)မည်သည့်အာမခံချက်သို့မဟုတ်လျော်ကြေးငွေကိုမဆိုဖန်တီးခြင်းသို့မဟုတ်တာဝန်ယူခြင်း။

(c) the creation or assumption of any guarantee or indemnity;

(ဃ)မည်သည့် ရုပ်ပိုင်းဆိုင်ရာ အဖိုးတန်ပစ္စည်းများကိုမဆို သိမ်းခြင်း သို့မဟုတ် ထုခွဲရောင်းချခြင်း။

(d) any acquisition or disposal of any material asset;

(င) ဘုတ်အဖွဲ့တွင် ခန့်အပ်မည့် ဒါရိုက်တာများ၏ အရေအတွက်အား ပြောင်းလဲခြင်း။

(e) the change in the number of directors appointed to the Board;

(စ) ရှယ်ယာနှင့်သက်ဆိုင်သော မည်သည့်ဖြည့်စွက်ချက် ကိစ္စမဆို။

(f) any additional issue of shares;

(ဆ) အစုပေါ်အမြတ် သို့မဟုတ် မည်သည့် ခွဲဝေခြင်းမရှိသေးသော အကျိုးအမြတ်အားမဆို ကြေညာခြင်း။

(g) the declaration dividends or any other undistributed profits;

(ဇ) အခါအားလျော်စွာ အခြားနေရာတွင် ရင်းနှီးမြှုပ်နှံမှု (ထိန်းသိမ်းထားသည့် ငွေကြေးများ)

အဖြစ် ထားရှိမည်ဖြစ်သော အကျိုးအမြတ် ပမာဏ။

(h) the extent of the profit to be reinvested (retained earnings) from time to time;

(ဈ) ကုမ္ပဏီမှ အုပ်စုတစ်ခုအနေနှင့် ဆောင်ရွက်မည်ဖြစ်သော ( တရားစွဲဆိုခြင်း၊ စီရင်ဆုံးဖြတ်ခြင်း သို့မဟုတ် အခြားသော စွဲဆိုမှုများ အပါအဝင်)မည်သည့် ဥပဒေရေးရာဆောင်ရွက်ချက်မဆို ( အခြေကျခြင်း အပါအဝင် ) စီမံခန့်ခွဲမှုနှင့်ဆက်စပ်နေသော ဆုံးဖြတ်ချက်များ။

(i) the decisions relating to the conduct (including the settlement) of any legal proceedings (including litigation, arbitration or other proceedings) to which the Company is a party;

## ၆ အစုရှင်ဆိုင်ရာ အစည်းအဝေးများ

## 6. SHAREHOLDER MEETINGS

### ၆.၁ အထွေထွေ အစည်းအဝေးများ

### 6.1 General Meetings

(က) အထွေထွေ အစည်းအဝေးတစ်ခုအတွက် အစည်းအဝေးဖြစ်မြောက်ရန် အနည်းဆုံးလိုအပ်သည့် လူဦးရေမှာ နှစ် (၂) ဦး - အဖွဲ့ (က) မှ တစ် (၁) ဦးနှင့် အဖွဲ့ (ခ) မှ တစ် (၁) ဦး ဖြစ်မည်။

(a) The quorum for a general meeting of the Company shall be two (2); one (1) from Party A and one (1) from Party B.

(ခ) ရှယ်ယာပိုင်ဆိုင်သူများမှ ကိုယ်တိုင် သို့မဟုတ် ကိုယ်စားလှယ်ဖြင့် အစည်းအဝေးများသို့ တက်ရောက်မည်။

(b) Shareholders shall attend meetings in person or by proxy.

(ဂ) မည်သည့် အထွေထွေအစည်းအဝေး၌မဆို အစည်းအဝေးသို့ တင်ပြသော ဖြေရှင်းချက်များအား မဲဆန္ဒအများစုအရ ဆုံးဖြတ်မည်ဖြစ်ပြီး JVC ၏ ပါဝင်မှုတစ်ခုစီအတွက် မဲတစ်ခုပေးနိုင်ခွင့်ရှိမည်။ မြန်မာနိုင်ငံ ကုမ္ပဏီများဆိုင်ရာ အက်ဥပဒေ၏ ပြဋ္ဌာန်းချက်များနှင့် ဤစာချုပ်စာတမ်း၌ ဖော်ပြထားသည့် ရှယ်ယာပိုင်ရှင်များ၏ သတ်မှတ်ထားသော ကိစ္စရပ်များအရ ကိုယ်တိုင် သို့မဟုတ် ကိုယ်စားလှယ်အားဖြင့် တက်ရောက်သူများ၏ ၇၅% မှ ထောက်ခံသော ဆုံးဖြတ်ချက်အား ပြုလုပ်မည့်

အထူးဆုံးဖြတ်ချက်ဟုခေါ် ဆိုမည်ဖြစ်သော အခြေအနေများမှလွဲ၍ အများစု၏ထောက်ခံ ချက်ရရှိမှသာလျှင် ဆုံးဖြတ်ချက်အား အတည်ပြုမည်ဖြစ်သည်။

(c) At any general meeting a resolution put to the meeting shall be decided by majority voting and each share of JVC. shall have the right of one vote. Subject to the provisions under the Myanmar Companies Act and the Shareholder's Reserved Matters stated herein, a resolution is passed when it is approved by simple majority except where the situation calls for a Special resolution where the resolution shall be approved by 75% of the attendees, either by proxy or in person.

၆.၂ ရှယ်ယာပိုင်ရှင်များ၏ သတ်မှတ်ထားသော ကိစ္စရပ်များ

6.2 Shareholders' Reserved Matters

JVC ၏ စီမံခန့်ခွဲခြင်းနှင့်လုပ်ငန်းလည်ပတ်ခြင်းအတွက် ဘုတ်အဖွဲ့မှ တာဝန်အပြည့်အဝရှိ သောကြောင့် ရှယ်ယာပိုင်ရှင်များ၏ သတ်မှတ်ထားသောကိစ္စရပ်များရှိမည်မဟုတ်ပါ။

As the Board is fully responsible for the management and operation of JVC, there is no shareholders' reserved matters.

## ၇ ကုမ္ပဏီအတွက် ဘဏ္ဍာရေး

## 7. FINANCE FOR THE COMPANY

၇.၁ ကုမ္ပဏီအတွက် အလုံးစုံသော မူဝါဒနှင့် ညွှန်ကြားချက်များကို ဘုတ်အဖွဲ့မှ သတ်မှတ်၍နှစ်စဉ် စီးပွားရေး လုပ်ငန်းစဉ်နှင့် အသုံးစရိတ်များကို အတည်ပြုမည်။ ဦးဆောင်ညွှန်ကြားရေးမှူးနှင့် ဘုတ်အဖွဲ့ဒါရိုက်တာများ ကြားရှိ စည်းကမ်းချက်များနှင့်ပတ်သက်၍ရေးသား ချက်တွင်တင်ပြထား သော သတ်မှတ်ချက်များနှင့်အညီ ကုမ္ပဏီ၏ နေ့စဉ် စီမံခန့်ခွဲခြင်းသည် ဦးဆောင်ညွှန်ကြားရေးမှူး၏ တာဝန်ဖြစ်မည်။

7.1 The Board shall set overall policy and guidelines for the Company, approve annual business plans and budgets. Day to day management of the Company shall be the responsibility of the Managing Director in accordance with the conditions laid out in the written condition upon the terms in writing between the Managing Director and Board of Directors.

၇.၂ အခြားလိုအပ်သော မည်သည့် ရင်းနှီးငွေ သို့မဟုတ် ရန်ပုံငွေအားမဆို ထပ်တိုးရှယ်ယာ သို့မဟုတ် ရှယ်ယာပိုင်ဆိုင်သူများ၏ ချေးငွေ သို့မဟုတ် ကြားခံအဖွဲ့အစည်းမှမတည်ငွေ သို့မဟုတ် ဘဏ် ချေးငွေ စသည်ဖြင့် အဖွဲ့များကြား သဘောတူညီချက်အရ ရရှိစေမည်။

7.2 Any further capital or funding required shall be obtained through further equity or shareholders' loan or third party financing or Bank loan as may be agreed upon between the Parties.

## ၈ စီမံချက်

## 8. THE PROJECT

၈.၁ အဖွဲ့များသည် စီမံချက်အတွက် စုပေါင်း၍ ရင်းနှီးမြှုပ်နှံခြင်း၊ တိုးတက်စေခြင်းနှင့်လုပ်ငန်းလည်ပတ်ခြင်းများ လုပ်ဆောင်မည်ကို သဘောတူညီပြီးပြီ ဖြစ်ပါသည်။

8.1 The Parties have agreed to jointly invest, develop and operate the Project.

၈.၂ သက်ဆိုင်သော အစိုးရဌာနများနှင့်အတူ ညှိနှိုင်းဆောင်ရွက်ခြင်းနှင့် ပြည်သူ့ဆက်ဆံရေး လုပ်ငန်းများ ပေါ်ပေါက်လာခဲ့လျှင် အဖွဲ့ (က) မှ လိုအပ်သော အကူအညီများကို ထောက်ပံ့မည် ဖြစ်ပြီး သက်ဆိုင်ရာ ကုန်ကျစရိတ်များအား JVC မှ တာဝန်ယူမည်ဖြစ်သည်။

8.2 In case of coordination and public relation issues regarding relevant government departments, Party A may provide necessary assistance and all relevant fees shall be borne by JVC.

## ၉ ရှယ်ယာ လွှဲပြောင်းခြင်းများ

## 9. TRANSFERS OF SHARES

၉.၁ ရှယ်ယာ လွှဲပြောင်းခြင်းများအား ယေဘုယျအားဖြင့် တားမြစ်ခြင်း

9.1 General Prohibition Against Share Transfers

အခြားအဖွဲ့မှ ကြိုတင်ရေးသားထားသော သဘောတူညီချက် မရှိလျှင် သို့မဟုတ် ဤသဘော တူညီမှုတွင် အခြားနည်းဖြင့် ခွင့်ပြုထားခြင်း မရှိလျှင် မည်သည့်အဖွဲ့မှမဆို အောက်ပါဖော်ပြ ချက်များကို ပြုလုပ်ခွင့် သို့မဟုတ် ပြုလုပ်ရန် သဘောတူညီခွင့် မရှိပါ။

No Party can do, or agree to do, any of the following without the prior written consent of the other Party or unless otherwise permitted under this Agreement:

(က) အပေါင်ပစ္စည်း၊ ပေါင်နှံခြင်း၊ ပေးချေရန် အဖိုးအခ (ပုံသေ သို့မဟုတ် ပုံသေမဟုတ်သော မည့်သို့ပင်ဖြစ်စေ ပေးချေရန် အဖိုးအခ)၊ အာမခံ ဖြစ်စေခြင်း သို့မဟုတ် ကုမ္ပဏီရှိ ၎င်း၏ ရှယ်ယာများတွင် ဥပဒေဆိုင်ရာ သို့မဟုတ် ပိုင်ဆိုင်မှုဆိုင်ရာ အစုရှယ်ယာအား အကြွေးဆပ်ခြင်း။

(a) pledge, mortgage, charge (whether by way of fixed or floating charge), create a security interest in or otherwise encumber its legal or beneficial interest in its Shares in the Company;

(ခ) ကုမ္ပဏီရှိ ရှယ်ယာ (သို့မဟုတ် ထိုနေရာရှိ မည်သည့် ဥပဒေဆိုင်ရာ သို့မဟုတ် ပိုင်ဆိုင်မှုဆိုင်ရာ အစုရှယ်ယာ) များထက် ပိုများသော ရောင်းချခြင်း၊ လွှဲပြောင်းခြင်း သို့မဟုတ် အခြားမည်သည့် ပုံစံဖြင့်မဆို စာရင်းရှင်းခြင်း သို့မဟုတ် ထောက်ပံ့ခြင်း။ သို့မဟုတ်

(b) sell, transfer or otherwise dispose of, or grant any option over, any of its Shares in the Company ( or any legal or beneficial interest therein); or

(ဂ) ကုမ္ပဏီရှိ ရှယ်ယာများနှင့်ပတ်သက်သော မည်သည့်မဲဆန္ဒနှင့်ဖြစ်စေ စပ်လျဉ်း၍ မည်သည့် သဘောတူညီမှုတွင်မဆို ပါဝင်ခြင်း။

(c) enter into any agreement in respect of any votes attached to the Shares in the Company.

၉.၂ လက်ဦး ဝယ်ယူခွင့်များ

9.2 Pre-emption Rights

(က) မည်သည့် အဖွဲ့မှမဆို ( "လွှဲပြောင်းပေးသူ" ) သည် ကုမ္ပဏီရှိ ၎င်း၏ ရှယ်ယာများ ("**အရောင်း ရှယ်ယာ**") ကို အောက်ပါပြဋ္ဌာန်းချက်များနှင့်အညီရောင်းချခြင်း၊ လွှဲပြောင်းခြင်း သို့မဟုတ် စာရင်းရှင်းခြင်းများ ပြုလုပ်နိုင်မည်။

(a) Any party (the "Transferor") may sell, transfer or otherwise dispose of any of its shares ("**Sale Shares**") in the Company in accordance with the following provisions PROVIDED THAT :

ဤစာချုပ်စာတမ်းရှိ အခြားပြဋ္ဌာန်းချက်များအရ လွှဲပြောင်းပေးသူမှ ကြားနေ အဖွဲ့အစည်း ("**လွှဲပြောင်းခံရသူ**") ထံ ရောင်းချရန်၊ လွှဲပြောင်းရန်၊ အခြားသူ လက်အောက်တွင် ထားရှိရန် သို့မဟုတ် စာရင်းရှင်းရန် အဆိုပြုထားသော ၎င်း၏ မည်သည့်အရောင်းရှယ်ယာများကိုမဆို

လွှဲပြောင်းခံရသူ (နှင့် တူညီမှု မရှိလျှင် အဆိုပြုသော ရှယ်ယာအကျိုးခံစားခွင့်ရှိသူ) သည် မည်သူဖြစ်သည်၊ စာရင်းရှင်းရန် အဆိုပြုထားသော ရှယ်ယာပမာဏ၊ ထိုစာရင်းရှင်းခြင်းအား ဖြစ်စေသောလွှဲပြောင်းသူမှ အဆိုပြုသည့် ရောင်းရှယ်ယာ တစ်ခုစီ၏ တန်ဖိုး ("**ဈေးနှုန်း**") နှင့် လွှဲပြောင်း ပေးသူမှ လွှဲပြောင်းခံရသူအား စာရင်းရှင်းမည့် အရောင်းရှယ်ယာနှင့် ဆိုင်သော အခြေအနေနှင့် သတ်မှတ်ချက်များ ("**စာရင်းရှင်းခြင်းဆိုင်ရာ သတ်မှတ်ချက်များ**") စသည်တို့အား ဖော်ပြထား၍ တူညီသော ကုမ္ပဏီမှ အခြားရှယ်ယာ ပိုင်ဆိုင်သူ(များ)ထံသို့ ပထမဆုံးအနေဖြင့် ကမ်းလှမ်းစာ ("**ကြေညာစာ**") ပေးရမည်။

Subject to the other provisions herein, the Transferor proposing to sell, transfer, assign or otherwise dispose of any of its Sale Shares to a third party ("**Transferee**"), first give offer notice ("**Notice**") to the other Shareholder(s) from the same company specifying the identity of the Transferee (and the proposed beneficial owner of the Shares, if different), the number of Shares it proposes to dispose of, the price per Sale Share at which the Transferor proposes to effect such disposal (the "**Price**") and all other terms and conditions upon which the Transferor proposes to dispose the Sale Shares to the Transferee (the "**Conditions of Disposal**").

(ခ) သတ်မှတ်ဈေးနှုန်းအတိုင်း ရောင်းချမည်ဖြစ်သော အရောင်းရှယ်များအား ခြွင်းချက်မရှိ ကမ်းလှမ်းချက်နှင့် စာရင်းရှင်းခြင်းဆိုင်ရာ ပြဋ္ဌာန်းချက်များ၏ အခြေအနေနှင့် သတ်မှတ်ချက်များ ("**ကမ်းလှမ်းချက်**") အရ ကြေညာစာကို ရရှိစေမည်ဖြစ်ပြီး ရုံးချိန်အတွင်း၌ အခြားရှယ်ယာ ပိုင်ဆိုင်သူ(များ)မှ လက်ခံနိုင်စေရန် ကမ်းလှမ်းချက်အား ဆက်လက်ထားရှိရမည်။ အခြားရှယ်ယာ ပိုင်ဆိုင်သူ(များ)မှ ရုံးချိန်အတွင်း မည်သည့်အချိန်၌မဆို ရှယ်ယာအား လက်ခံသော ကြိုတင်ဟန့်တားချက်တစ်ခုကို လွှဲပြောင်းပေးသူထံမှတောင်းခံနိုင်သည်။

(b) The Notice shall constitute an unconditional offer to sell the Sale Shares at the Price and upon terms and conditions of the Conditions of Disposal (the "**Offer**") and shall remain open for acceptance by the other Shareholder(s) for the Offer Period. The other Shareholder(s) shall at any time during the Offer Period serve on the Transferor a Preemption Notice accepting the Offer.

(ဂ) အခြားရှယ်ယာ ပိုင်ဆိုင်သူ(များ)အတွက် ထိုသို့သောစာရင်းရှင်းခြင်းကို အကျိုးသက်ရောက်စေမည့် အဆိုပြုသော ရှယ်ယာတစ်ခုအတွက် ဈေးနှုန်း ("**ဈေးနှုန်း**") သည် ပေါက်ဈေးဖြစ်မည်။ ဈေးနှုန်းအားသဘောတူညီမှုမရှိလျှင်ပေါက်ဈေးကို ဆုံးဖြတ်ရန်

အတွက် ကျွမ်းကျင်မှုရှိသော လက်မှတ်ရ ပြည်သူ့ စာရင်းကိုင်တစ်ဦးအားခန့်အပ်မည် ဖြစ်သည်။

(c) The price ("**Price**") per Share at which the Transferor proposes to effect such disposal to other Shareholder(s) shall be at market value. If the Price cannot be agreed upon, a competent Certified Public Accountant shall be appointed to determine the market value.

(ဃ) အရောင်းရှယ်ယာများကို ကြိုတင် ဟန့်တားအသိပေးခြင်းအားတောင်းခံပြီး ပြန်လည်ဖြေကြားသော ရှယ်ယာပိုင်ဆိုင်သူ(များ) ထံသို့ လွှဲပြောင်းပေးသူမှ စာရင်းရှင်းခြင်း ဆိုင်ရာ သတ်မှတ်ချက်များအရ ရောင်းချမည်ဖြစ်ပြီး ထိုသို့ ကြိုတင် ဟန့်တားအသိပေးခြင်းအား တောင်းခံ၍ ပြန်လည်ဖြေကြားသော ရှယ်ယာပိုင်ဆိုင်သူ( များ) ထံသို့ လွှဲပြောင်းရန် ၎င်းတို့ လက်ရှိပိုင်ဆိုင်ထားသော ( ဖြေကြားသောရှယ်ယာပိုင်ဆိုင်သူမှတောင်းခံသည့် ရောင်းချမည့် အရေအတွက်နှင့် အနီးစပ်ဆုံး ဖြစ်နိုင်သော်လည်း ၎င်းအရေအတွက်ထက် ကျော်လွန်ခြင်း မရှိသော) အချိုးအစားအရ ကြိုတင် ဟန့်တားအသိပေးခြင်းအား ဆောင်ရွက်မည့် ရက် ( ၂၀ ) အတွင်း၌လိုအပ်သော လုပ်ဆောင်ချက်အားလုံးကို လွှဲပြောင်းပေးသူမှ ဆောင်ရွက်ရမည်။

(d) The Sale Shares shall be sold at the Price upon the Conditions of Disposal by the Transferor to the Responding Shareholder(s) who served Preemption Notices and the Transferor shall take all necessary action to transfer the same to the Responding Shareholder(s) within twenty (20) days of the service of the Preemption Notice in proportion (as nearly as may be without increasing the number sold to any Responding Shareholder beyond that applied for by him) to their existing holdings.

(c) သတ်မှတ်ချက်များအား ဆောင်ရွက်ခြင်း၏ ရလဒ်အနေဖြင့် လွှဲပြောင်းခြင်း ခံရသူသည် အရောင်းရှယ်ယာများကို ဝယ်ယူမည့် ကမ်းလှမ်းချက်အား ရုပ်သိမ်းသည်ဟူသော အဆိုအား ဖြစ်ပေါ်စေလျှင် သို့မဟုတ် ဤအဆိုအား အသုံးပြုခြင်းဖြင့် လွှဲပြောင်းပေးသူမှ အရောင်းရှယ်ယာများ အားလုံးကို စာရင်းရှင်းရန် မဖြစ်နိုင်ခြင်းအား ဖြစ်ပေါ်စေလျှင် မည်သည့်ပုဂ္ဂိုလ်ထံတွင်မဆို အရောင်းရှယ်ယာများကို လွှဲပြောင်းပေးသူမှ စာရင်းရှင်စေ
မည်။

(e) If, as a result of the operation of the provisions of this Clause the Transferee withdraws its offer to purchase Sale Shares or the application of this Clause results in the Transferor being unable to dispose of all of its Sale Shares the Transferor shall be entitled to dispose of the Sale Shares to any persons.

(စ) ရုံးချိန်အတွင်း၌ အခြားရှယ်ယာ ပိုင်ဆိုင်သူ(များ)မှ ကမ်းလှမ်းချက်အား ငြင်းဆိုလျှင် သို့မဟုတ် လွှဲပြောင်းပေးသူထံတွင် ကြိုတင်ဟန့်တားအသိပေးခြင်းအား ဆောင်ရွက်ခြင်းမရှိလျှင် လွှဲပြောင်းပေးသူသည် အရောင်းရှယ်ယာများကို အခြားအဖွဲ့များထံတွင် သတ်မှတ်ထားသော ဈေးနှုန်းနှင့် စာရင်းရှင်းခြင်းဆိုင်ရာသတ်မှတ်ချက်များနှင့်ကိုက်ညီစွာ ရောင်းချရန် ဆောင်ရွက်မည်။

(f) If the other Shareholder(s) reject the Offer or fails to deliver the Preemption Notice to the Transferor within the Offer Period, the Transferor may proceed to sell the Sale Shares to other parties at the Price and upon the Conditions of Disposal accordingly.

၉.၃ ဤအပိုဒ်ငယ် ၉ နှင့် အသင်းအဖွဲ့၏ စာချုပ်တွင်ပါရှိသော အချက်အလက်များမှ သင့်တော်သော ပြဋ္ဌာန်းချက်များအား လိုက်နာခြင်းအရ ဤနေရာမှစ၍ အဖွဲ့များမှ တစ်ဖွဲ့သည် ကုမ္ပဏီရှိ ၎င်း၏ ရှယ်ယာပိုင်ဆိုင်မှု တစ်ခုလုံး သို့မဟုတ် တစ်စိတ်တစ်ပိုင်းအား လွှဲပြောင်းရန် ဆန္ဒရှိလျှင် ၎င်းအား လွှဲပြောင်းခြင်းခံရသူသည် ဥပဒေဆိုင်ရာ သဘောတူညီမှုအား ဆောင်ရွက်ရမည်ဖြစ်သည့်အလျောက် ၎င်းအား ဦးစားပေးအဖြစ်နှင့် ကြိုတင်သတ်မှတ်ချက်အဖြစ် ဆောင်ရွက်၍ ထိုသို့သောရှယ်ယာလွှဲပြောင်းခြင်းအတွက် ဘုတ်အဖွဲ့၏ ခွင့်ပြုချက်အား ကြိုတင်သတ်မှတ်ချက်အဖြစ် ရရှိရန် ဆောင်ရွက်ရမည်။

9.3 Where either of the Parties hereto, having complied with the relevant provisions of this Clause 9 and the Articles of Association, wishes to transfer the whole or part of its shareholding in the Company, as the case may be, then the party transferring its Shares in the Company, shall procure that prior to and as a precondition of such transfer that the transferee shall enter into a binding Agreement, which shall serve as a pre-condition for the approval of the Board for such transfer of Shares.

၉.၄ မှတ်ပုံတင်ခြင်းအတွက် ဒါရိုက်တာများမှ ခွင့်ပြုမည်အား အဖွဲ့များမှ သဘောတူညီသော်လည်း ၎င်းသည် မှတ်ပုံတင်ခြင်းကိုသာလျှင် ခွင့်ပြုသည်ဖြစ်ပြီး ဤအပိုဒ်ငယ် ၉ နှင့် MIC ၏ ခွင့်ပြုချက်အရ လိုက်နာခြင်းများနှင့် ဆက်စပ်သော မည်သည့် ရှယ်ယာလွှဲပြောင်းခြင်းအားမဆို လုပ်ထုံးလုပ်နည်းအရ ဖြစ်စေမည်။

9.4 The Parties agree that the Directors shall approve for registration, but shallonly approve for registration, any transfer of Shares in relation to whichcompliance has been made with this Clause 9 and MIC approval shall be obtained.

၉.၅ ရှယ်ယာ အထောက်အထားအား အတည်ပြုခြင်း

9.5 Endorsement on Share Certificates

သင့်တော်သော ရှယ်ယာများသည် ဤသဘောတူညီချက်၏ စည်းကမ်းချက်များနှင့် ကိုက်ညီသည်ဆိုသော အကျိုးသက်ရောက်မှုအား ဖြစ်စေရန် ကုမ္ပဏီသည်၎င်းမှ ထုတ်ဝေပေးသောရှယ်ယာအထောက်အထား တစ်ခုစီအတွက် မှတ်ချက်ပြုလုပ်ပေးမည်။

The Company shall procure that each share certificate issued by it shall carry a legend to the effect that the relevant Shares are subject to the terms of this Agreement.

၉.၆ အခွန်နှင့် တံဆိပ်ခေါင်းခွန်

9.6 Tax and Stamp Duty

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံ၏ တံဆိပ်ခေါင်းခွန်နှင့် ဝင်ငွေခွန်၌ ပြဋ္ဌာန်းထားသည့်အတိုင်း အဖွဲ့များသည် ရှယ်ယာ လွှဲပြောင်းခြင်းအတွက် တံဆိပ်ခေါင်းခွန်နှင့် ဝင်ငွေခွန်များ ပေးဆောင်ရန် သဘောတူပါသည်။

The parties agree to pay tax and duty, for share transfer, as stipulated in the Stamp Act and the Income Tax Law of the Republic of the Union of Myanmar.

## ၁၀ သဘောတူညီချက် ကာလ

## 10 DURATION OF AGREEMENT

၁၀.၁ ဤသဘောတူညီချက်၌ အခြားမည်သည့်သတ်မှတ်ချက်များ ပါရှိသည်ဖြစ်စေ ကုမ္ပဏီဖွဲ့စည်းတည်ထောင်ခြင်း၏ ပြီးမြောက်ခြင်းမတိုင်မီ မည်သည့်အချိန်၌မဆို -

10.1 Notwithstanding any other provision of this Agreement, if at any time prior to completion of the formation of the Company: -

(က) တည်ဆဲဥပဒေများနှင့် လုပ်ထုံးလုပ်နည်းများ သို့မဟုတ် ဘဏ္ဍာရေးဆိုင်ရာ၊ နိုင်ငံရေးဆိုင်ရာ၊ စီးပွားရေးဆိုင်ရာ သို့မဟုတ် ဈေးကွက်အခြေအနေများနှင့် ဆက်စပ်သော ပြောင်းလဲမှုများ ဖြစ်ပေါ်လာလျှင် အဖွဲ့များ၏ အကျိုးအကြောင်းညီညွတ်သော ခံယူချက်သည် ကုမ္ပဏီ၏ စီးပွားရေးအတွက် အခြေခံအားဖြင့် ကောင်းကျိုးမပြုနိုင်ခြင်း သို့မဟုတ် အဖွဲ့တစ်ခုစီ၏ သို့မဟုတ် အဖွဲ့နှစ်ခုလုံး၏ လုပ်ငန်း၌ ပါဝင်ပတ်သက်ခြင်းနှင့်ဆက်စပ်သော အကျိုးများအတွက် အခြေခံအားဖြင့် ကောင်းကျိုးမပြုနိုင်ခြင်း သို့မဟုတ်

(a) any change in existing laws or regulations or in local or international financial, political, economic or market conditions occurs, which in the reasonable opinion of the Parties is materially adverse for the business of the Company or materially adverse in the context to the interests of either or both Parties' participation in the venture; or

(ခ) မည်သည့်အဖွဲ့၏ သတိမူမိခြင်းများအားမဆို၏ ဤစာချုပ်စာတမ်း၌ ပါရှိသော ကိုယ်စားပြုခြင်းများ၊ အာမခံများ သို့မဟုတ် တာဝန်ယူ ဆောင်ရွက်ခြင်းများသည် အခြားအဖွဲ့၏ ပိုင်ဆိုင်မှုအနေဖြင့် သုံးသပ်လျှင် မှန်ကန်မှု မရှိခြင်း သို့မဟုတ် ချွတ်ယွင်းချက်ရှိခြင်း သို့မဟုတ် ချိုးဖောက်မှုရှိခြင်း စသည်များ ရှိလျှင် အခြားအဖွဲ့ထံသို့ ရေးသားထားသော သတိပေးချက်ဖြင့် ဤသဘောတူညီမှုအား အဆုံးသတ်စေမည်။

(b) it comes to the notice of any Party that any of the representations, warranties or undertakings contained herein, is untrue or inaccurate or breached in any respect considered by the other Party to be material, then this Agreement may be terminated by notice in writing to the other Party.

၁၀.၂ ကုမ္ပဏီအား ထိခိုက်စေခြင်း မရှိသော်လည်း ဤသဘောတူညီမှုတွင်ပါရှိသော ယခင်သတ်မှတ်ချက်များနှင့်အညီ အဆုံးသတ်စေခြင်းမရှိပါက ၎င်းသည် ဤသဘောတူညီမှုအား အကျိုးသက်ရောက်စေမည် ဖြစ်သောကြောင့် သီးခြားပိုင်ဆိုင်မှု အနေဖြင့်ရပ်တည်ရန် ဤသဘောတူညီမှုအားရပ်စဲမည်။

10.2 This Agreement shall be in effect until the Company shall be wound up or otherwise cease to exist as a separate entity or unless terminated earlier pursuant to provisions in this agreement.

၁၀.၃ အခြားအဖွဲ့ထံတွင် စုပေါင်းတည်ရှိသော သို့မဟုတ် အကြွေးတင်ရှိသော မည်သည့် ပေးဆပ်ရန်တာဝန်အားမဆို မြန်မာနိုင်ငံ ကုမ္ပဏီများဥပဒေ သို့မဟုတ် ပြည်ထောင်စု သမ္မတ မြန်မာနိုင်ငံ၏ တည်ဆဲဖြစ်သော ဥပဒေများဖြင့် စီမံဆောင်ရွက်မည် ဖြစ်သည်။

Any liability accrued by or owed to the other Party shall be governed by the Myanmar Companies law of the Republic of the Union of Myanmar for the time being in force.

၁၀.၄ ဤသဘောတူညီမှုအား MIC ၏ အသိအမှတ်ပြုချက်အရ အဖွဲ့နှစ်ခုလုံးမှ အပြန်အလှန် ရေးသားသဘောတူညီမှုနှင့်အညီ အဆုံးသတ်စေမည်။

10.4 This Agreement shall terminate upon the mutual agreement in writing by the Parties subject to MIC's approval.

## ၁၁ ဥပဒေဆိုင်ရာ အသုံးစရိတ်များ၊ အခွင့်အရေးများနှင့် တာဝန်ယူခြင်းများ

## 11. LEGAL EXPENSES, RIGHTS AND LIABILITIES

၁၁.၁ အဖွဲ့များသည် ဤသဘောတူညီမှု၏ ပြင်ဆင်ခြင်းနှင့် ပြီးမြောက်စေခြင်းအတွက် ၎င်းတို့၏ သက်ဆိုင်ရာ ကျန်ကျစရိတ်များနှင့် အသေးအဖွဲများအား တာဝန်ယူမည်ဖြစ်သည်။ ကိုယ်ပိုင် လုံခြုံရေး၊ ကာကွယ်မှုနှင့် သက်သာရာရခြင်းများအတွက် အဖွဲ့များမှ ကုန်ကျမည်ဖြစ်သော အခြား မည်သည့် ကုန်ကျစရိတ်အားမဆို ပါဝင်သောအဖွဲ့မှ တာဝန်ယူရမည်ဖြစ်သည်။

11.1 The Parties shall bear their respective costs of and the incidental to then preparation and completion of this Agreement. Any further expenditure incurred by the parties for their own security, protection or relief shall be borne by the Party involved.

၁၁.၂ ကုမ္ပဏီသည် အဖွဲ့များမှ သဘောတူညီသည့် သင့်တော်သော မြန်မာ့ဘဏ်တစ်ခု၌ ဘဏ်စာရင်းတစ်ခု ထားရှိမည်။ တရားဝင် ပြေစာများနှင့် စာရင်းပြုလုပ်ထားသည့်အတိုင်း ကုမ္ပဏီအား အောင်မြင်စွာ မှတ်ပုံတင်နိုင်ခြင်းမတိုင်မီ၌ ကုန်ကျသော အသုံးစရိတ်များအား ထိုဘဏ်စာရင်းမှ ထုတ်ယူသုံးစွဲရန် အဖွဲ့များမှ သဘောတူပြီး ဖြစ်ပါသည်။

11.2 The Company shall open an account at an appropriate Myanmar Bank agreed to by the Parties. Expenses incurred prior to the successful registration of the Company which are accounted for with official receipts and which the Parties have agreed on will be dispensed from such bank account.

## ၁၂ ပျက်ကွက်ခြင်း

## 12. DEFAULT

၁၂.၁ လူမှုရေးဆိုင်ရာ ဆောင်ရွက်ချက်များ၌ ပျက်ကွက်ခြင်း

12.1 Event of Default

ရှယ်ယာပိုင်ဆိုင်သူ ("**ပျက်ကွက်သည့် ရှယ်ယာပိုင်ဆိုင်သူ**") သည် အောက်ပါ လူမှုရေးဆိုင်ရာ ဆောင်ရွက်ချက်များ၌ ပျက်ကွက်သူ ဖြစ်သည်။

A Shareholder (the "**Defaulting Shareholder**") suffers an Event of Default where:

(က) ဤသဘောတူညီမှု၏ စာချုပ်ပါ အချက်အလက်များအား လိုက်နာရန် ပျက်ကွက်ခြင်းနှင့် (၁) ပြန်လည်ကုစားခြင်း မရှိသော ပျက်ကွက်မှု သို့မဟုတ် (၂) ပျက်ကွက်မှုအား ပြန်လည်ကုစားရန် လိုအပ်ကြောင်း အခြား ရှယ်ယာပိုင်ဆိုင်သူများမှ ရေးသားအသိပေးချက်အား ပေးပို့သည့်ရက်မှစ၍ သုံးဆယ် (၃၀) ရက်အတွင်း ပျက်ကွက်သည့် ရှယ်ယာပိုင်ဆိုင်သူမှ ပျက်ကွက်မှုအား ပြန်လည်ကုစားမှု မရှိခြင်း စသည်တို့ကို ကျူးလွန်ခြင်း သို့မဟုတ်

(a) it commits a material breach of this Agreement and either (1) the breach is not capable of being remedied or (2) the Defaulting Shareholder does not remedy that breach within thirty (30) days of the other Shareholders sending it a written notice requiring it to remedy that breach; or

(ခ) ပေးရန်အချိန် စေ့ရောက်သောအခါ အကြွေးမဆပ်ခြင်း သို့မဟုတ် ၎င်း၏ အကြွေးများကို မပေးနိုင်ခြင်းအား ဖြစ်စေခြင်း သို့မဟုတ်

(b) it becomes insolvent or unable to pay its debts when due; or

(ဂ) ၎င်း၏ ပိုင်ဆိုင်မှုတန်ဖိုးသည် ၎င်းမှ ပြန်လည်ပေးဆပ်နိုင်ခြင်းထက် နည်းခြင်း (သေချာမှု မရှိသော သို့မဟုတ် မျှော်မှန်းရသော ပြန်လည်ပေးဆပ်နိုင်ခြင်းများအား ထည့်သွင်းစဉ်းစားသည်။) သို့မဟုတ်

(c) the value of its assets is less than its liabilities (taking into account contingent and prospective liabilities); or

(ဃ) ဒေဝါလီခံရခြင်း၊ လုပ်ငန်းရပ်စဲခြင်း သို့မဟုတ် စာရင်းရှင်း ဖျက်သိမ်းခြင်းများအား (ဆန္ဒအလျောက်ဖြစ်စေ သို့မဟုတ် မည်သို့ပင် ဖြစ်စေ) ဆောင်ရွက်ခြင်း သို့မဟုတ် ၎င်း၏ ပိုင်ဆိုင်မှုများ အပေါ်တွင် တရားရေးရာ မန်နေဂျာ၊ မန်နေဂျာ၊ လက်ခံသူ၊ အုပ်ထိန်းသူ၊ စီမံခန့်ခွဲသူ သို့မဟုတ် စာရင်းရှင်း ဖျက်သိမ်းရေး အရာရှိများကို ခန့်အပ်ခြင်း သို့မဟုတ် ထိုသို့သော ရည်ရွယ်ချက်များအတွက် တာဝန်ယူဆောင်ရွက်ခြင်း သို့မဟုတ် ၎င်း၏ ဒေဝါလီခံရခြင်း၊ လုပ်ငန်းရပ်စဲခြင်း စသော တရားဝင်လျှောက်လွှာ၏ အမှာစာ သို့မဟုတ် ဆုံးဖြတ်ချက် သို့မဟုတ် တင်ပြခြင်းများပြုလုပ်ခြင်း အစရှိသည်တို့ပါဝင်သော ယင်းနှင့် ဆက်စပ်သည့် အလားတူ ရည်ရွယ်ချက် သို့မဟုတ် အားထုတ်ကြိုးပမ်းမှု စသည့် အခြားသောဆောင်ရွက်ခြင်းများအား ပြုလုပ်ခြင်း သို့မဟုတ်

(d) it commits or suffers any act of bankruptcy, insolvency, reorganisation, winding up or liquidation (whether voluntary or otherwise) proceedings or other proceedings,

analogous thereto in purpose or effect, including the appointment of a judicial manager, manager, receiver, trustee, administrator or liquidator over any part of its assets or undertakings for any such purpose or the making of any order or resolution or the presentation of any petition for its bankruptcy or winding up; or

(င) မရှိန္ဓမ်းပါးခြင်း၊ သေဒဏ်စီရင်ခြင်း၊ အကြွေးဖြင့် သိမ်းယူခြင်း သို့မဟုတ် ရက် သုံးဆယ် (၃၀) အတွင်း ဆောင်ရွက်ခြင်း မရှိသော ပျက်ကွက်သည့် ရှယ်ယာပိုင်ဆိုင်သူ၏ ပိုင်ဆိုင်မှုအား စည်းကြပ်ခြင်း သို့မဟုတ် ဥပဒေဖြင့် ဆောင်ရွက်ခြင်း သို့မဟုတ် ဖြတ်တောက်ခြင်း စသော အခြားလုပ်ငန်းစဉ်များ သို့မဟုတ်

(e) any distress, execution, sequestration or other process is levied or enforced upon or taken out against the property of that Defaulting Shareholder which is not discharged within thirty (30) days; or

(စ) ပြန်လည်တည်ထောင်ခြင်း သို့မဟုတ် ရောနှောပေါင်းစည်းခြင်း၏ ရည်ရွယ်ချက်များမှလွဲ၍ ၎င်း၏ စီးပွားရေး တစ်ခုလုံး သို့မဟုတ် တစ်စိတ်တစ်ပိုင်းအား ရပ်စဲခြင်း သို့မဟုတ်

(f) it ceases to carry on wholly or substantially its business other than for the purpose of a reconstruction or amalgamation; or

(ဆ) ၎င်းအား ဥပဒေ ပြဋ္ဌာန်းချက်များအရ အရေးယူခံရခြင်း

(g) it is subject to any change of Control.

၁၂.၂ ပျက်ကွက်ခြင်းအား အသိပေးခြင်း

12.2 Notice of default

လုပ်မှုရေးဆိုင်ရာ ဆောင်ရွက်ချက်များ၌ ပျက်ကွက်ခြင်းများ ဖြစ်ပေါ်လာလျှင် ပျက်ကွက်သော ရှယ်ယာပိုင်ဆိုင်သူသည် သင့်တော်စွာ ဆောင်ရွက်မှုများ ပြုလုပ်နိုင်သည်နှင့်တစ်ပြိုင်နက်အခြား ရှယ်ယာပိုင်ဆိုင်သူများအား အသိပေးရမည်။

If an Event of Default occurs, the Defaulting Shareholder shall notify the other Shareholders as soon as reasonably practicable.

၁၂.၃ ပျက်ကွက်ခြင်းဆိုင်ရာ အသိပေးချက်

12.3 Default Notice

ပျက်ကွက်သော ရှယ်ယာပိုင်ဆိုင်သူ မဟုတ်သူမှ လူမှုရေးဆိုင်ရာ ဆောင်ရွက်ချက်များ၌ ပျက်ကွက်ခြင်းများ ဖြစ်လာနိုင်ခြင်းအား စတင်သတိထားမိသော သို့မဟုတ် လူမှုရေးဆိုင်ရာ ဆောင်ရွက်ချက်များ၌ ပျက်ကွက်ခြင်းများ ဖြစ်လာခြင်း၏ အကြောင်းကြားချက်ကို ပျက်ကွက်သော ရှယ်ယာပိုင်ဆိုင်သူမှ စတင်ရရှိသော ရက်မှစ၍ သုံးဆယ် (၃၀) ရက်အတွင်း၌ မည်သည့်ဖြစ်ရပ်မှ စတင်သည်ဖြစ်စေ ပျက်ကွက်သော ရှယ်ယာပိုင်ဆိုင်သူ မဟုတ်သူတစ်ဦးစီမှ ပျက်ကွက်သော ရှယ်ယာပိုင်ဆိုင်သူအား ၎င်းမှအောက်ပါ အချက်များကို ဆောင်ရွက်ရန် လိုအပ်သည်ဟု ထည့်သွင်းထားသော ရေးသားအသိပေးချက် ( "**ပျက်ကွက်ခြင်းဆိုင်ရာ အသိပေးချက်**") ကို ပေးအပ်ရမည်။

Within thirty (30) days of the Non-defaulting Shareholder becoming aware of the occurrence of any Event of Default or receiving a notification of the Event of Default from the Defaulting Shareholder, whichever is earlier, each of the non-defaulting Shareholders may give written notice (a "**Default Notice**") to the Defaulting Shareholder requiring the Defaulting Shareholder to:

(က) ပျက်ကွက်သော ရှယ်ယာပိုင်ဆိုင်သူ မဟုတ်သူ (သို့မဟုတ် ၎င်း၏ အဖွဲ့အစည်း) နှင့်/သို့မဟုတ် ပျက်ကွက်သော ရှယ်ယာပိုင်ဆိုင်သူ မဟုတ်သူမှ အမည်စာရင်းတင်သွင်းသော ကြားနေအဖွဲ့အစည်း ("**သတ်မှတ်ထားသော ဝယ်ယူသူ**") အား အရောင်းရှယ်ယာ၏ သင့်တော်သော ဈေးနှုန်းထက် ၉၀% နည်းသော ဈေးနှုန်းကို အခြေခံ၍ ပျက်ကွက်သော ရှယ်ယာပိုင်ဆိုင်သူ မဟုတ်သူ၏ တစ်ခုတည်းသော ကိုယ်ပိုင် ဆုံးဖြတ်ချက်ဖြင့်သာ ဆုံးဖြတ်သည့်အတိုင်း ရှယ်ယာများကို ရောင်းချရန် သို့မဟုတ်

(a) Sell of its Shares to the Non-Defaulting Shareholder (or its Affiliates) and/or any third party nominated by the Non-defaulting Shareholder ("**Designated Purchaser**") at a price based on 90% less of the Fair Value of the Sale Shares, as elected by the Non-defaulting Shareholder at its sole discretion; or

(ခ) ပျက်ကွက်သော ရှယ်ယာပိုင်ဆိုင်သူ မဟုတ်သူ၏ ရှယ်ယာများအားလုံးအား ရောင်းဈေးတန်ဖိုး ၁၁၀% ကို အခြေခံ၍ ပျက်ကွက်သော ရှယ်ယာပိုင်ဆိုင်သူ မဟုတ်သူ၏ တစ်ခုတည်းသော ကိုယ်ပိုင် ဆုံးဖြတ်ချက်ဖြင့်သာ ဆုံးဖြတ်သည့်အတိုင်း ဝယ်ယူရန် သို့မဟုတ်

(b) Purchase all of the Non-Defaulting Shareholder's Shares at a price based on 110% of the market value as elected by the Non-Defaulting Shareholder at its sole discretion;

(ဂ) ကုမ္ပဏီမှ အလေးထားရန် ကိစ္စအဖြစ် ထိုကိစ္စတစ်ခုလုံးအား တာဝန်ယူဆောင်ရွက်၍ ရောင်းချရန်အတွက် ပျက်ကွက်သော ရှယ်ယာပိုင်ဆိုင်သူ မဟုတ်သူနှင့် ပေါင်းစည်းပြီး ထိုမှတဆင့် ကုမ္ပဏီအား အဆုံးသတ်စေ၍ ရောင်းရငွေအား သက်ဆိုင်ရာ ဥပဒေနှင့်အညီ ရှယ်ယာပိုင်ဆိုင်

သူများထံသို့ မျှဝေပေးရန်

(c) To join the Non-Defaulting Shareholder to cause the Company to sell the whole of its undertaking as a going concern and thereafter to wind up the Company and to distribute the proceeds of sale to the Shareholders in accordance with applicable law.

## ၁၃ အကျပ်အတည်း အခြေအနေ

## 13. DEADLOCK

၁၃.၁ ရှယ်ယာ ပိုင်ဆိုင်သူများ၏ သို့မဟုတ် ဘုတ်အဖွဲ့၏ သင့်တော်စွာ စုဝေးဖိတ်ကြားသော အစည်းအဝေး၌ ဆုံးဖြတ်ချက်တစ်ခုအား အဆိုပြုပြီး ရွှေ့ဆိုင်းခြင်းအရ ပြန်လည်စုဝေးဖိတ်ကြားသော အစည်းအဝေး၌ အစည်းအဝေးဖြစ်မြောက်ရန် အနည်းဆုံးလိုအပ်သည့် လူဦးရေ မပြည့်လျှင် သို့မဟုတ် ရွှေ့ဆိုင်းသော အစည်းအဝေး၌ ဆုံးဖြတ်ချက်အားအဆိုပြုသော ပုဂ္ဂိုလ်မှတက်ရောက်ခြင်း မရှိသောကြောင့် အစည်းအဝေးဖြစ်မြောက်ရန် အနည်းဆုံးလိုအပ်သည့် လူဦးရေ မပြည့်လျှင် အကျပ်အတည်း အခြေအနေအား ဖြစ်စေသည်။

13.1 There is a deadlock if a resolution is proposed at a properly convened meeting of Shareholders or of the Board and there is no quorum at the meeting when it is reconvened following an adjournment, provided that the meeting, or adjourned meeting, is not in quoate because the person who proposed the resolution does not attend.

၁၃.၂ အကျပ်အတည်း အခြေအနေအားဖြစ်စေသော အစည်းအဝေး ကျင်းပခြင်းအပြီး ၂၈ ရက်အတွင်း၌ အဖွဲ့တစ်ခုမှ အခြား အဖွဲ့တစ်ခုထံသို့ သတိပေးချက် ("**အကျပ်အတည်းဆိုင်ရာ သတိပေးချက်**") အား ပေးရမည်။

13.2 Either party may within 28 days of the meeting at which the deadlock arises serve notice on the other party ("**Deadlock Notice**"):

(က) ပထမအချက်အနေဖြင့် ဖြစ်စေခဲ့သော အကျပ်အတည် အခြေအနေအပေါ် ၎င်း၏ ထင်မြင်ယူဆချက်နှင့်

(a) stating that in its opinion a deadlock has occurred; and

(ခ) အကျပ်အတည်း အခြေအနေအား ဖြစ်စေသော ကိစ္စရပ်အား ဖော်ထုတ်ခြင်း။

(b) identifying the matter giving rise to the deadlock.

၁၃.၃ အောက်ပါအချက်များအား ပြုလုပ်မည်ဟု အဖွဲ့များမှ တာဝန်ယူပါသည်။

13.3 The parties undertake that they shall:

(က) အကျပ်အတည်းဆိုင်ရာ သတိပေးချက်အား စတင်သိရှိသည့်နေ့တွင် အဖွဲ့ (က) နှင့် အဖွဲ့ (ခ) ပိုင်ဆိုင်သော ကုမ္ပဏီ၏ ဥက္ကဌမှ အကျပ်အတည်း အခြေအနေကို ဖြစ်စေသော ကိစ္စရပ်အား ဆုံးဖြတ်ချက်ပြုလုပ်နိုင်ရန် ထုတ်ဖော်ပြောကြားခြင်း။ နှင့်

(a) on the date of service of the Deadlock Notice, refer the matter giving rise to the deadlock to the chairman of the holding company of Party A an Party B Group for resolution; and

(ခ) အငြင်းပွားဖွယ်ရာ ကိစ္စအား ဖြေရှင်းရန် သင့်တော်သော ကြိုးပမ်းအားထုတ်မှု အားလုံးကို သဘောဖြောင့်မတ်စွာဖြင့် ဆောင်ရွက်ခြင်း။

(b) use all reasonable endeavours in good faith to resolve the dispute.

၁၃.၄ အကျပ်အတည်း အခြေအနေအား ဥက္ကဌထံသို့ ထုတ်ဖော်ပြောကြားသည့်နေ့မှ ၁၄ ရက် ("**ဆုံးဖြတ်ချက် ကာလ**") အတွင်း၌ အဖွဲ့များမှ အကျပ်အတည်း အခြေအနေအား ဖြေရှင်းနိုင်ခြင်းမရှိလျှင် အစည်းအဝေးဖြစ်မြောက်ရန် အနည်းဆုံးလိုအပ်သည့် လူဦးရေ မပြည့်သော အစည်းအဝေးတွင် တက်ရောက်ခဲ့သော အဖွဲ့ (သို့မဟုတ် အဖွဲ့များ) ("**စတင်ပေးအပ်သူ**") သို့မဟုတ် အစည်းအဝေးဖြစ်မြောက်ရန် အနည်းဆုံးလိုအပ်သည့် လူဦးရေ မပြည့်သော အစည်းအဝေးအား တက်ရောက်ခဲ့ခြင်း မရှိသော သို့မဟုတ် ဆုံးဖြတ်ချက်အား မဲဆန္ဒ အနည်းစုသာ ပေးခဲ့သော ပုဂ္ဂိုလ်များ သို့မဟုတ် ဆုံးဖြတ်ချက် ကာလ သက်တမ်းကုန်ဆုံးချိန် ၂၈ ရက် အတွင်း၌ ကြားနေမဲပေးသူများမှ အခြားအဖွဲ့ထံသို့ အသိပေးချက် ("**အကျပ်အတည်းဆိုင်ရာ သတိပေးချက်**") အား ပေးရမည်။ အကျပ်အတည်းဆိုင်ရာ ဖြေရှင်းခြင်း သတိပေးချက်တွင် ၎င်းအား လက်ခံရရှိသူ ("**လက်ခံရရှိသူ**") မှ ကုမ္ပဏီရှိ ၎င်း၏ ရှယ်ယာများကို အကျပ်အတည်းဆိုင်ရာ ဖြေရှင်းခြင်း သတိပေးချက်တွင် စတင်ပေးအပ်သူမှ သတ်မှတ်ထားသည့်အတိုင်း စတင်ပေးအပ်သူထံသို့ ရောင်းချရန် လိုအပ်သည်။

13.4 If the parties are unable to resolve a deadlock within 14 days from the date the deadlock matter is referred to the chairmen ("**Resolution Period**") the party (or parties) who was present at the meetings at which there was no quorum or as the case may be ("**Server**") may serve a notice ("**Deadlock Resolution Notice**") on the other party who was not present at the meeting at which there was no quorum or who voted with the minority on the resolution or abstained within 28 days of the expiry of the Resolution Period. The Deadlock Resolution Notice shall require the recipient of it ("**Recipient**") to sell all of its shares in the Company to the Server in such proportions as the Server shall specify in the Deadlock Resolution Notice.

၁၃.၅ အပိုဒ်ငယ် ၁၃.၄ အရ အကျပ်အတည်းဆိုင်ရာ ဖြေရှင်းခြင်း သတိပေးချက်၏ ပေးအပ်မှုတွင် စတင်ပေးအပ်သူနှင့် လက်ခံရရှိသူတို့မှ ရှယ်ယာများကို (ဤကိစ္စအရ ဖြစ်နိုင်ချေရှိလျှင်) ရောင်းဝယ်မှုအား အပိုဒ်ငယ် ၁၃.၆ နှင့် ၁၃.၇ နှင့်အညီ လိုက်နာဆောင်ရွက်စေမည်။

13.5 The service of a Deadlock Resolution Notice under Clause 13.4 shall bind the Server and the Recipient to buy and sell the shares (as the case may be) in accordance with Clause 13.6 and 13.7.

၁၃.၆ အကျပ်အတည်းဆိုင်ရာ ဖြေရှင်းခြင်း သတိပေးချက်အရ ရှယ်ယာများအတွက် ဝယ်စျေးသည် အကျပ်အတည်းဆိုင်ရာ ဖြေရှင်းခြင်း သတိပေးချက် ပေးအပ်ထားသော ၂၈ ရက် ကာလအတွင်း၌ စတင်ပေးအပ်သူနှင့် လက်ခံရရှိသူတို့ကြားရှိ သဘောတူညီထားသော ပမာဏဖြစ်မည်ဖြစ်ပြီး ထိုပမာဏအား မျှတသော ရှယ်ယာတန်ဖိုးများ ဖြစ်စေရန် ရာပြတ်များမှ ဆုံးဖြတ်မည်။

13.6 The purchase price for the shares the subject of the Deadlock Resolution Notice shall be the amount agreed between the Server and the Recipient within 28 days of the service of the Deadlock Resolution Notice and, such amount as is determined by the Valuers to be the Fair Value of the shares.

၁၃.၇ အပိုဒ်ငယ် ၁၃.၄ တွင် ဖော်ပြထားသော ၂၈ ရက် ကာလအကုန်၌ ထိုအပိုဒ်ငယ်နှင့်အညီ အကျပ်အတည်းဆိုင်ရာ ဖြေရှင်းခြင်း သတိပေးချက်အား ပေးအပ်ခြင်း မရှိလျှင် အပိုဒ်ငယ် ၁၃.၄ နှင့်အညီ JVC မှ အဆုံးသတ်ပေးရန် အဖွဲ့တစ်ခုမှ အခြားအဖွဲ့အား ရေးသားအသိပေးချက်အား ပေးအပ်ခြင်းဖြင့် ဆုံးဖြတ်မည်။

13/7 If at the end of the 28 day period specified in Clause 13.4 a Deadlock Resolution Notice has not been served in accordance with that clause, either party may elect by written notice served on the other party for the JVC to be wound up in accordance with Clause 24.

## ၁၄ အငြင်းပွားဖွယ်များအား ဖြေရှင်းခြင်း

## 14 DISPUTE RESOLUTION

၁၄.၁ ဤနေရာမှစ၍ အဖွဲ့များအတွင်းတွင် ဤသဘောတူညီမှုမှ သို့မဟုတ် ဤသဘောတူညီမှုနှင့် ဆက်စပ်၍ ဖြစ်ပေါ်လာသော အငြင်းပွားခြင်း၊ တောင်းဆိုခြင်း သို့မဟုတ် ကွဲပြားခြင်း ("အငြင်းပွားဖွယ်များ") စသည်တို့ ဖြစ်ပေါ်လာလျှင် ပထမဆုံးအနေဖြင့် အငြင်းပွားဖွယ်များအား အဖွဲ့များကြားတွင် အပြန်အလှန် ညှိနှိုင်းတိုင်ပင်မှုများဖြင့် ကြည်အေးစွာ ဖြေရှင်းမည်ဖြစ်သည်။

14.1 In the event of any dispute, claim or difference (“Dispute”) between the Parties hereto arising out of or in connection with this Agreement, the Dispute shall first be settled amicably amongst the Parties through mutual consultation.

၁၄.၂ အဖွဲ့တစ်ခုမှ အခြားအဖွဲ့အား အငြင်းပွားဖွယ်များပါဝင်သော ရေးသားချက်ကို ပထမဆုံး အသိပေးပြီးသည့် အလုပ်ရက် ၁၄ ရက်အတွင်း၌ သို့မဟုတ် အဖွဲ့များ၏ သဘောတူညီချက်အရ အထက်ဖော်ပြပါ ၁၄ ရက်ကာလ ကုန်ဆုံးချိန်အပြီး ဆက်လက်တိုးချဲ့ထားသော ကာလအတွင်း၌ အငြင်းပွားဖွယ်များအား ကြည်အေးစွာ ဖြေရှင်းနိုင်ခြင်း မရှိလျှင် အငြင်းပွားဖွယ်များအား မြန်မာနိုင်ငံရှိ ဖျန်ဖြေရေးမှ ဖျန်ဖြေရေးအဖွဲ့ရှေ့မှောက်တွင် တင်ပြမည်ဖြစ်သည်။ အဖွဲ့တစ်ခုမှ ဖျန်ဖြေရေးအား ၎င်းတို့တင်ပြမည့် ဆန္ဒအား အသိပေးရန် အခြားအဖွဲ့အား ရေးသားပေးပို့ရမည်ဖြစ်ပြီး အငြင်းပွားဖွယ်များ ဖြစ်လျက်ရှိသည်ကို အခြားအဖွဲ့အား အသိပေးသည့် ပထမဆုံး ၁၄ ရက်အတွင်း ပေးပို့သည်ဖြစ်လျှင်ပင် ထိုအသိပေးချက်အား ပေးပို့သည်နှင့်တစ်ပြိုင်နက် အပိုဒ်ငယ် ၁၄.၃ တွင် ဖော်ပြထားသော အချိန်အပိုင်းအခြားအား အကျိုးသက်ရောက်စေမည်။ အလုပ်ရက် ၇ ရက်အတွင်း၌ ဖျန်ဖြေရေးအဖွဲ့၏ အဆုံးအဖြတ်အား အဖွဲ့များမှ သဘောတူညီမှု မရှိသည့် အခြေအနေများတွင် အဖွဲ့များမှ နာမည် နှစ်ခုအား အလုံပိတ်ထားသော စာအိတ်တစ်ခုစီ၌ ထည့်သွင်းရန် သဘောတူညီ၍ အဖွဲ့များမှ ဖျန်ဖြေရေးအဖွဲ့ထံ၌ ပထမဆုံး အဆိုတင်သွင်းသောရက်မှ အလုပ်ရက် ၃ ရက်အတွင်းတွင် အဖွဲ့များ၏ ရှေ့နေများမှ နာမည်တစ်ခုအား ထုတ်ယူမည်ဖြစ်သည်။

14.2 If the dispute is not resolved amicably within 14 working days after a Party first informs the other Party in writing of the existence of the Dispute or within an extended period after the expiry of the abovementioned 14-day period as agreed by the Parties, the Dispute shall be referred to mediation in Myanmar before a mediator from Myanmar. If the dispute is not resolved amicably within 14 working days after a Party first informs the other Party in writing of the existence of the Dispute or within an extended period after the expiry of the abovementioned 14-day period as agreed by the Parties, the Dispute shall be referred to mediation in Myanmar before a mediator from Myanmar. Either Party shall write to the other Party to inform them of their desire to refer the dispute to mediation and the timeline referred to in Clause 14.3 shall be activated as soon as such a notice is sent even if it is sent within the first 14 days of a Party first informing the other Party of the existence of the Dispute. In the event that Parties are unable to agree on the identity of the mediator within 7 working days, the Parties agree to put forward two names each in sealed envelopes, and one name shall be drawn by the solicitors of the parties within 3 working days of the first of the Parties putting forward their proposed mediator. The mediation shall be completed within 21 days of one JVC. calling for mediation.

၁၄.၃ အဖွဲ့တစ်ခုမှ အခြားအဖွဲ့အား အငြင်းပွားဖွယ်များပါဝင်သော ရေးသားချက်ကို ပထမဆုံး အသိပေးပြီးချိန်၌ အဖွဲ့များမှ အငြင်းပွားဖွယ်များအား ဖျန်ဖြေရေးအဖွဲ့ထံ၌ ဖြေရှင်းခြင်း မပြုနိုင်သော ပထမဆုံး အလုပ်ရက် ၂၁ ရက်အတွင်း၌ သို့မဟုတ် အဖွဲ့များ၏ သဘောတူညီချက်အရ အထက်ဖော်ပြပါ ၂၁ ရက်ကာလ ကုန်ဆုံးချိန်အပြီး ဆက်လက်တိုးချဲ့ ထားသော ကာလအတွင်း၌ အငြင်းပွားဖွယ်များအား ကြည်အေးစွာ ဖြေရှင်းနိုင်ခြင်း မရှိလျှင် အငြင်းပွားဖွယ်များအား နောက်ဆုံးဖြစ်သောနှင့် ပြည့်စုံခိုင်လုံသော စီရင်ဆုံးဖြတ်ချက် ပြုလုပ်ရန်အတွက် စင်ကာပူနိုင်ငံ အပြည်ပြည်ဆိုင်ရာ ခုံသမာဓိ ဗဟို ("**SIAC**") ၌ အဖွဲ့များမှ အပြန်အလှန် သဘောတူညီသော ခုံသမာဓိတစ်ဦး ရှေ့မှောက်တွင် သို့မဟုတ် သဘောတူညီခြင်း မရှိပါက SIAC မှ တာဝန်ပေးသော ခုံသမာဓိတစ်ဦး ရှေ့မှောက်တွင် တင်ပြမည်ဖြစ်သည်။ အငြင်းပွားဖွယ်များအား သက်ရောက်နိုင်သော ခုံသမာဓိဖြင့် စီရင်ဆုံးဖြတ်ခြင်း၏ စည်းမျဉ်းများသည် ခုံသမာဓိဖြင့် စီရင်ဆုံးဖြတ်ခြင်း၏ အသိပေးချက်အား ဆောင်ရွက်သော အချိန်၌ သက်ရောက်မှုရှိသည့် SIAC မှ စည်းမျဉ်းများ ဖြစ်မည်။ ခုံသမာဓိဖြင့် စီရင်ဆုံးဖြတ်ခြင်း၏ ပြုလုပ်ရာနေရာမှာ စင်ကာပူနိုင်ငံဖြစ်ပြီး ခုံသမာဓိဖြင့် စီရင်ဆုံးဖြတ်ခြင်းတွင် အသုံးပြုမည့် ဘာသာစကားမှာ အင်္ဂလိပ်ဘာသာစကား ဖြစ်မည်။

14.3 In the event the Parties are unable to resolve their Dispute through mediation within 21 working days after a Party first informs the other Party in writing of the their desire to refer the dispute to mediation or within an extended period after the expiry of the abovementioned 21-day period as agreed by the Parties in writing, either Party may refer the Dispute for final and conclusive adjudication through arbitration at the Singapore International Arbitration Centre ("**SIAC**") by a single arbitrator mutually agreed by the Parties, or failing agreement, such arbitrator shall be appointed by the Chairperson of SIAC. The Rules of arbitration applicable to the Dispute shall be the SIAC Rules in force at the time the Notice of Arbitration is issued. The place of the arbitration shall be Singapore, and the language of the arbitration shall be English.

## ၁၅ သက်ဆိုင်ရာလွှမ်းမိုးသော ဥပဒေ
## 15. GOVERNING LAW

ဤသဘောတူညီမှုအား ပြည်ထောင်စု သမ္မတ မြန်မာနိုင်ငံ၏ တည်ဆဲဥပဒေများနှင့်အညီ ထိန်းချုပ်၍ နားလည်သွားမည် ဖြစ်သည်။

This Agreement shall be governed and construed in accordance with the Laws of the

Republic of the Union of Myanmar for the time being in force.

## ၁၆ သတိပေးချက်များ

## 16. NOTICES

၁၆.၁ ဤစာချုပ်စာတမ်း၌ အခြားနည်းဖြင့် ဖော်ပြထားခြင်း မရှိလျှင် ဤသဘောတူညီမှုတွင် မည်သည့် အသိပေးချက်၊ စာအဆက်အသွယ်၊ တောင်းဆိုချက်၊ သဘောတူညီချက်များ၊ ဖော်ပြချက်များနှင့် အခြားဆက်သွယ်ခြင်းများ ("**သတိပေးချက်**") မဆိုအား အင်္ဂလိပ်ဘာသာစကားဖြင့်ဖော်ပြရမည်ဖြစ်ပြီး လိပ်စာများ သို့မဟုတ် ဤနေရာမှ စတင်ဖော်ပြထားသော ဖက်စ် နံပါတ်များ (သို့မဟုတ် ဤအပိုဒ်ငယ်အရ အဖွဲ့များမှ အခါအားလျော်စွာ အသိပေးထားသော အခြားသော လိပ်စာများ သို့မဟုတ် ဖက်စ် နံပါတ်များ) မှတဆင့် အခြားအဖွဲ့များသို့ မှတ်တမ်းတင်ထားသော မေးလ်များ၊ စာပို့စနစ်၊ အီလက်ထရွန်နစ် သို့မဟုတ် ဖက်စ် ဖြင့် ပေးပို့နိုင်မည်။

16.1 Unless otherwise specified herein, any notice, correspondence, demand, consents, statements and other communication under this Agreement ("**Notice**") shall be in the English language and may be sent in writing by registered mail, courier, electronic or facsimile transmission to the other party at the addresses or facsimile numbers specified hereafter (or at such other addresses or facsimile numbers as shall be specified by the parties from time to time by notice pursuant to this Clause).

၁၆.၂ ထိုသို့သော မည်သည့်အသိပေးချက်အားမဆို အောက်တွင်ဖော်ပြထားသော လိပ်စာများမှ အဖွဲ့များသို့ ပေးပို့နိုင်သည်။

16.2 Any such Notices shall be delivered to the parties at the addresses set forth below:

အဖွဲ့ (က) သို့ ပေးပို့လိုလျှင် -
Gaw Kyi Seng (ခ) ဦးကြည်စိန်
အမှတ်-(၁၄၆)မြေညီထပ်၊၁၅လမ်း၊(၇)ရပ်ကွက်၊လမ်းမတော်မြို့နယ်၊ရန်ကုန်မြို့။
If to Party A:
Gaw Kyi Seng (B) U Kyi Sein
No.(146),Ground Floor,15st,(7)Auarter ,Lanmadaw Tsp., Yangon

အဖွဲ့ (ခ) သို့ ပေးပို့လိုလျှင် -
Zhong Shaofei
No.23 Yunpu 1 Road, Economic Technological Development District, Guangzhou,

China, 510530

If to Party B :

Zhong Shaofei

No.23 Yunpu 1 Road, Economic Technological Development District, Guangzhou, China, 510530

၁၆.၃ မည်သည့် အသိပေးချက်၊ စာအဆက်အသွယ်၊ တောင်းဆိုချက်၊ သဘောတူညီချက်များ၊ ဖော်ပြချက်များနှင့် ဆက်သွယ်ခြင်းများအားမဆို အောက်ပါအတိုင်းမှတ်ယူပေးပို့ရမည်။

16.3 Any notice, correspondence, demand, consents, statements or communication shall be deemed served if:

(က) သင့်တော်သည့် စာတိုက်အမိန့်စာအား မှတ်တမ်းတင်ခြင်းဖြင့် အကိုးအကားဖြစ်စေ၍ လိပ်စာရှင်ထံသို့ မှတ်တမ်းတင်ထားသော မေးလ်များဖြင့် အမှန်တကယ် ပေးပို့ခြင်းနှင့်

(a) sent by registered mail, on actual delivery to the addressee, as evidenced by a documentation of the relevant postal authority; and

(ခ) ဖက်စ်ဖြင့်ပေးပို့လျှင် -

(b) in the case of facsimile,

(i) ရုံးချိန်ဖြစ်သော ပုံမှန် စီးပွားရေး အချိန်များအတွင်း ပေးပို့ခြင်းဖြစ်လျှင် ပေးပို့သောအခါတွင် ဖက်စ် မှ အသိအမှတ်ပြုသော အတည်ပြုချိန်နှင့် အောင်မြင်စွာလွှဲပြောင်းနိုင်ခြင်းအား ဖက်စ် ပို့သူမှ အလိုအလျောက် လက်ခံရရှိပါသည်။ သို့မဟုတ်

(i) if dispatched during regular business hours of the receiving office when dispatched and facsimile acknowledgement confirming due and complete transmission is automatically received by the sender of the facsimile; or

(ii) ရုံးချိန်ဖြစ်သော ပုံမှန် စီးပွားရေး အချိန်များ မဟုတ်သည့် အခြားအချိန်အတွင်း ပေးပို့ခြင်းဖြစ်လျှင် အခြားပုံမှန် ရုံးချိန်ဖြစ်သော ပုံမှန် စီးပွားရေး အချိန်များ၌ အောင်မြင်စွာ လွှဲပြောင်းနိုင်ခြင်းအား ဆက်သွယ်ရေး ဖက်စ်မှ အသိအမှတ်ပြုသော အတည်ပြုချိန်နှင့် အောင်မြင်စွာ လွှဲပြောင်းနိုင်ခြင်းအား ဖက်စ် ပို့သူမှ အထက်တွင်ဆိုခဲ့သည့်အတိုင်း အလိုအလျောက် လက်ခံရရှိပါသည်။

(ii)if dispatched otherwise than during regular business hours of the receiving

office upon the commencement of the receiving office of the next regular business hours succeeding transmission provided that the telefax acknowledgement confirming due and complete transmission is automatically received by the sender on dispatch as aforesaid.

(ဂ) အီလက်ထရွန်နစ် မေးလ်ဖြင့် ပေးပို့ခြင်းဖြစ်လျှင် ၎င်းအား ပေးပို့သော အဖွဲ့၏ ထိန်းချုပ်မှုအောက်တွင် အချက်အလက်စနစ်မှ မေးလ် ထွက်ခွာသောအခါ သို့မဟုတ် ၎င်းအား ပေးပို့သော အဖွဲ့၏ ထိန်းချုပ်မှုအောက်တွင် အချက်အလက်စနစ်မှ မေးလ် ထွက်ခွာခြင်း မရှိသောအခါ ထိုအီလက်ထရွန်နစ်ဆိုင်ရာ ဆက်သွယ်မှု၏ အချိန်ကို လက်ခံရရှိပါမည်။ အီလက်ထရွန်နစ်ဆိုင်ရာ ဆက်သွယ်မှုအား လက်ခံရရှိသော အချိန်အား လိပ်စာရှင်မှ ပြုလုပ်ထားသော အီလက်ထရွန်နစ် လိပ်စာတွင် အီလက်ထရွန်နစ်ဆိုင်ရာ ဆက်သွယ်မှုအား လက်ခံရရှိရန် စတင်ဆောင်ရွက်နိုင်မှုရှိသည့် အချိန်အဖြစ် မှတ်ယူပါမည်။ ပေးပို့သူမှ ၎င်း၏ စီးပွားရေး တည်ရှိသောနေရာတွင် အီလက်ထရွန်နစ်ဆိုင်ရာ ဆက်သွယ်မှုအား ပေးပို့သည်ဟု မှတ်ယူ၍ လိပ်စာရှင်မှ ၎င်း၏ စီးပွားရေး တည်ရှိသောနေရာတွင် အီလက်ထရွန်နစ်ဆိုင်ရာ ဆက်သွယ်မှုအား လက်ခံသည်ဟု မှတ်ယူမည်။ လိပ်စာရှင်၏ အီလက်ထရွန်နစ် လိပ်စာသို့ အီလက်ထရွန်နစ်ဆိုင်ရာ ဆက်သွယ်မှု ရောက်ရှိသောအခါ လိပ်စာရှင်မှ အီလက်ထရွန်နစ်ဆိုင်ရာ ဆက်သွယ်မှုအားလက်ခံရရှိရန် စတင်ဆောင်ရွက်နိုင်မှုရှိသည့် အချိန်အဖြစ် မှတ်ယူပါမည်။

(c) if by electronic mail transmission, the time when it leaves the information system under the control of the party who sent it or if the electronic communication has not left an information system under the control of the party who sent it, the time when the electronic communication is received. The time of receipt of an electronic communication shall be presumed as the time when the electronic communication becomes capable of being retrieved at an electronic address designated by the addressee. An electronic communication is deemed to be dispatched at the place where the sender has its place of business and is deemed to be received at the place where the addressee has its place of business. An electronic communication is presumed to be capable of being retrieved by the addressee when it reaches the electronic address of the addressee.

## ၁၇ အဆင့်တူ ပုဂ္ဂိုလ်များ
## 17. COUNTERPARTS

ဤသဘောတူညီမှုအား အဖွဲ့တစ်ခုစီရှိ အဆင့်တူ ပုဂ္ဂိုလ်များမှ စီမံဆောင်ရွက်မည်ဖြစ်ပြီး ထိုသို့ဖြင့် တစ်ဖက်စီမှ ကိုယ်ပိုင်ဟန်ဖြင့် စီမံဆောင်ရွက်၍ လုပ်ဆောင်မည်ဖြစ်သော်လည်း စာချုပ်စာတမ်း၌ ပြဋ္ဌာန်းထားသော တူညီသည့် ကိစ္စများအား ပူးပေါင်းဆောင်ရွက်ရမည် ဖြစ်ပါသည်။ အဆင့်တူသော ပုဂ္ဂိုလ်တစ်ဦးစီသည် မိမိအဖွဲ့အနေဖြင့် လက်မှတ်ထိုး၍ ဆောင်ရွက်မည်ဖြစ်ပြီး ဖက်စ် ပေးပို့ခြင်းများဖြင့် လွှဲပြောင်းပေးသောအခါ မူရင်းများအား တရားဝင်ဖြစ်စေရန် ထိန်းသိမ်း ထားရပါမည်။

This Agreement may be executed by each of the Parties on separate counterparts, each of which when so executed and delivered shall be an original, but the counterparts shall together constitute one and the same instrument. Each counterpart may be signed and executed by a Party and transmitted by facsimile transmission and shall be valid and effectual as if an original.

## ၁၈ အတွင်းရေးနှင့် ဖွင့်ဟပြောဆိုမှု မရှိခြင်းများ
## 18. CONFIDENTIALITY AND NON-DISCLOSURE

ကုမ္ပဏီ၏ ကိုယ်စားလှယ်များ သို့မဟုတ် ဝန်ထမ်းများမှ အခြားသူများနှင့်သက်ဆိုင်သော သို့မဟုတ် အခြားသူများထံမှ ရရှိသော ကုန်သွယ်ရေးဆိုင်ရာ အတွင်းရေးများ၊ လျှို့ဝှက်ချက်များ၊ နည်းပညာဆိုင်ရာ အချက်အလက်နှင့် အခြား သတင်းအချက်အလက်များကို ထိန်းသိမ်းခြင်းရှိ စေရန် အဖွဲ့များမှ ဆောင်ရွက်ရမည်ဖြစ်ပြီး အဖွဲ့များမှ သို့မဟုတ် ကုမ္ပဏီ၏ ကိုယ်စားလှယ်များ သို့မဟုတ် ဝန်ထမ်းများမှ ဖွင့်ဟပြောဆိုခြင်းကြောင့် မဟုတ်ဘဲ တူညီသော စီးပွားရေးအား လုပ်ကိုင်သော အခြားကုမ္ပဏီများမှ ၎င်းအချက်အလက်များကို သိရှိခြင်း မရှိသည်အထိ ဆောင် ရွက်ရမည်။

The Parties hereto shall and shall procure the Company to keep and shall procure that their respective agents and employees and the agents and employees of the Company shall keep confidential all trade, secrets, technical data or other information of a confidential nature belonging to or obtained from the other until the same shall have become generally known to companies engaged in similar business otherwise than through disclosure on the part of the part of the Parties hereto or their respective agents or employees or the agents or employees of

the Company.

## ၁၉ မလွန်ဆန်နိုင်သော ကိစ္စရပ်များ
## 19. FORCE MAJEURE

၁၉.၁ ဤသဘောတူညီမှုတွင် ပါဝင်သော်လည်း ဘေးအန္တရာယ်၊ မုန်တိုင်း၊ မီး၊ မတော်တဆမှု၊ တိုက်ခိုက်မှု၊ အဖျက်အမှောင့်လုပ်ငန်း၊ ပေါက်ကွဲမှု၊ လေပြင်း၊ ရေကြီးခြင်းနှင့် အခြား သဘာဝ ဘေးအန္တရာယ်များ၊ စစ်ပွဲ (စစ်ပွဲအား ကြေညာထားသည်ဖြစ်စေ၊ ကြေညာထားခြင်း မရှိလျှင် ဖြစ်စေ)၊ ပုန်ကန်မှု၊ အဓိကရုဏ်း၊ ဆူပူသောင်းကျန်းခြင်း၊ ပြည်တွင်းစစ်၊ အစိုးရ ဥပဒေ၊ အမိန့်နှင့် လုပ်ထုံးလုပ်နည်းများ၊ တားမြစ်မိန့်၊ အစိုးရ သို့မဟုတ် ယင်းနှင့်ဆိုင်သော အဖွဲ့အစည်းများမှ ဆောင်ရွက်ချက်များ စသော ထိန်းချုပ်နိုင်ခြင်း မရှိသော အကြောင်းအရာများကြောင့် အဖွဲ့တစ်ခုမှ ဆောင်ရွက်ရန် မဖြစ်နိုင်သော အခြေအနေများတွင် ထိုသို့ဆောင်ရွက်နိုင်ခြင်း မရှိသည်အား ဤသဘောတူညီမှုအား ချိုးဖောက်သည်ဟု မှတ်ယူမည် မဟုတ်ပါ။

19.1 Notwithstanding anything contained in this Agreement, in the event that it is rendered impossible to perform by either Party for any reason beyond its reasonable control which reasons may include, but are not limited to, war, flood, earthquake, storms, disasters, invasion, act of foreign enemy, hostilities (whether war be declared or not), civil war or strike, rebellion, lockouts or other industrial disputes or actions, Acts of God, acts of government or other prevailing authorities or defaults of third parties, then such non-performance shall be deemed not to constitute a breach of this Agreement.

၁၉.၂ ထိုသို့သော အခြေအနေများကြောင့် သဘောတူညီမှုအား ၂ နှစ်နှင့် ၂ နှစ်အထက် ကာလအထိ ဆောင်ရွက်နိုင်ခြင်း မရှိလျှင် ထိုကာလအပြီး၌ အဖွဲ့များမှ ရေးသားအသိပေးချက်ဖြင့် ဤသဘော တူညီမှုအား အဆုံးသတ်ရန် ကိုယ်ပိုင်ဆုံးဖြတ်ချက်အား ပြုလုပ်နိုင်ခွင့်ရှိသည်။

19.2 If such an event occurs to the extent that the Agreement cannot be performed for a period of two years or more, the Parties shall have the right at its discretion to terminate this Agreement by notice in writing at the end of such period.

## ၂၀ လူ့အရင်းအမြစ်
## 20. HUMAN RESOURCES

### ၂၀.၁ အထွေထွေ စည်းမျဉ်းများ
### 20.1 General Rules

အလုပ်ခန့်အပ်ခြင်းဆိုင်ရာ သဘောတူညီမှုများ၏ ဖွဲ့စည်းတည်ဆောက်ခြင်းနှင့် ဖျက်သိမ်းခြင်း၊ သဘောတူညီမှုများ၏ စည်းမျဉ်းများ၊ လစာပေးအပ်ခြင်းများ၊ လုပ်ငန်းခွင် စည်းများနှင့် အခြား ကုမ္ပဏီအတွင်း စည်းမျဉ်းများ၊ ဝန်ထမ်းများ၏ လူမှုဖူလုံရေးအတွက် ဆောင်ရွက်မှုများနှင့် အခြားသော ဝန်ထမ်း၏ အကျိုးနှင့်ဆိုင်သည့် ပြဋ္ဌာန်းချက်များကို လူမှုဖူလုံရေးစီမံချက်နှင့် အခြားသင့်တော်သော ဥပဒေနှင့် လုပ်ထုံးလုပ်နည်းများအတွက် သက်ရောက်မှုရှိစေသော ပြည်ထောင်စု သမ္မတ မြန်မာနိုင်ငံ၏ အလုပ်သမားဥပဒေနှင့် လိုက်နာစေမည်ဖြစ်သည်။

The formation and dissolution of employment Agreements, the terms of such Agreements, the payment of salaries, the work rules and other internal rules, the contributions for the employees' social security, as well as the provision of other employee benefits shall be in compliance with the labor laws of the Republic of the Union of Myanmar governing various social security schemes and other relevant laws and regulations.

### ၂၀.၂ လုပ်ငန်းခွင်ဆိုင်ရာ ဘေးကင်းမှု
### 20.2 Occupational Safety

လုပ်ငန်းခွင်ဆိုင်ရာ ကျန်းမာရေး၊ ဘေးကင်းမှုနှင့် သက်ဆိုင်သော မြန်မာနိုင်ငံ၏ ဥပဒေနှင့် လုပ်ထုံးလုပ်နည်းများအား ကုမ္ပဏီမှ တိကျစွာ လိုက်နာမည်ဖြစ်သည်။

The Company shall strictly observe the laws and regulations of Myanmar concerning occupational health and safety.

## ၂၁ အခွန်များ
## 21. TAXES

### ၂၁.၁ ကုမ္ပဏီ၏ အခွန်ကောက်ခံခြင်း
### 21.1 Taxation of the Company

မြန်မာနိုင်ငံ၏ ရင်းနှီးမြှုပ်နှံခြင်းဆိုင်ရာ ဥပဒေအရ အခွန် ကင်းလွတ်ခွင့်ရသော ကာလအပြီးတွင် ကုမ္ပဏီမှ ကုမ္ပဏီအမြတ်ခွန်နှင့် ပြည်ထောင်စု သမ္မတ မြန်မာနိုင်ငံ၏ ဥပဒေ၊ လုပ်ထုံးလုပ် နည်းများနှင့်သက်ဆိုင်သော အခြားအခွန်များကို ပေးဆောင်မည်ဖြစ်သည်။

The Company shall pay corporate income taxes and other taxes in accordance with the applicable laws and regulations of the Republic of the Union of Myanmar after completion of tax exemption period under the Myanmar Investment Law.

၂၁.၂ ဝန်ထမ်းများ၏ အခွန်ကောက်ခံခြင်း

21.2 Taxation of Employees

ကုမ္ပဏီ၏ ဝန်ထမ်းများသည် သီးသန့် ဝင်ငွေခွန်အရ အခွန်ပေးဆောင်ရမည်ဖြစ်ပြီး ကုမ္ပဏီမှ မြန်မာနိုင်ငံ၏ ဥပဒေနှင့် လုပ်ထုံးလုပ်နည်းများ၏ ပြဋ္ဌာန်းချက်များနှင့်အညီ ထိုအခွန်များကို ထိန်းသိမ်းထားမည်ဖြစ်သည်။

The employees of the Company shall be subject to individual income tax and the Company shall withhold such taxes in accordance with the stipulations of the applicable laws and regulations of Myanmar.

## ၂၂ အာမခံ

## 22 INSURANCE

အာမခံ၏ အမျိုးအစား၊ တန်ဖိုးနှင့် ကြာချိန်တို့အား ကုန်သွယ်ရေးဆိုင်ရာ ထည့်သွင်းစဉ်းစားချက်များအပေါ် မူတည်၍ ဘုတ်အဖွဲ့ ဒါရိုက်တာများမှ ဆုံးဖြတ်ချက်များနှင့် မြန်မာနိုင်ငံ၏ ရင်းနှီးမြှုပ်နှံခြင်းဆိုင်ရာ ဥပဒေနှင့် ယင်းနှင့်သက်ဆိုင်သော မွမ်းမံခြင်းများအရဆုံးဖြတ်မည်ဖြစ်သည်။

Types, value and duration of insurances shall be decided by the Board of Directors based on commercial considerations and in compliance with the Myanmar Investment Law and Myanmar Insurance Law and any modification thereof.

## ၂၃ ပတ်ဝန်းကျင်ဆိုင်ရာ ထိန်းသိမ်းစောင့်ရှောက်ခြင်းများ

## 23. PROTECTION OF ENVIRONMENT

၂၃.၁ ပတ်ဝန်းကျင်ဆိုင်ရာ ဥပဒေ၊ ဆက်စပ်သော စည်းမျဉ်းများနှင့် ပြည်ထောင်စု သမ္မတ မြန်မာနိုင်ငံ၏ အသိပေးချက်များနှင့်အညီ မြေနေရာနှင့် ၎င်း၏ပတ်ဝန်းကျင်အား ထိန်းသိမ်းစောင့်ရှောက်ခြင်းများအတွက် ကုမ္ပဏီမှ တာဝန်ရှိမည်ဖြစ်သည်။ လေ၊ ရေနှင့် မြေဆီလွှာအား ညစ်ညမ်းစေခြင်းနှင့် အခြားသော ပတ်ဝန်းကျင်ဆိုင်ရာ ပျက်စီးစေခြင်းများအား ထိန်းချုပ်ရန် ကုမ္ပဏီမှ ဆောင်ရွက်ရမည်။ စွန့်ပစ်ရေအား သန့်စင်စေသော စက်နှင့် ပတ်ဝန်းကျင်နှင့် ညီညွတ်သော စီမံချက်တစ်ခုဖြစ်စေရန် အခြားသော လုပ်ဆောင်ချက်များ အစရှိသော ပတ်ဝန်းကျင် ကာကွယ်စောင့်ရှောက်ခြင်းအား ဖြည့်ဆည်းဆောင်ရွက်ရန်အတွက် တိုင်းတာမှုများကို ကုမ္ပဏီမှ ဆောင်ရွက်မည် ဖြစ်ပါသည်။

23.1 The Company shall be responsible for the preservation of the environment at and around the area of the Land in accordance with the Environmental Law, related Rules and Notifications of

the Republic of the Union of Myanmar. The Company shall be able to control pollution of air, water and land and other environmental degradation. The Company shall make measure in order to fulfill environmental protection such as installation of the waste water treatment plant and other treatment procedures to keep the project of the environmental friendly.

၂၃.၂ မီးလောင်ခြင်းနှင့် လေထုညစ်ညမ်းမှု ဖြစ်ခြင်းအား ကာကွယ်ရန်နှင့် မြေနေရာ၌ ရှိသူအားလုံး၏ လုပ်ငန်းခွင်ဆိုင်ရာ လုံခြုံမှုအား သေချာစေရန် လိုအပ်သော သို့မဟုတ် အသုံးပြုရမည်ဖြစ်သော သင့်တော်သည့် ကြိုတင်ကာကွယ်မှုအားလုံးအား ကုမ္ပဏီမှ လက်ခံကျင့်သုံးမည်ဖြစ်ပြီး အခါအား လျော်စွာ အသိပေးသည့် သင့်တော်သော ညွှန်ကြားချက်၊ အမိန့်၊ လိုအပ်ချက်များနှင့် မီးလောင်မှု ကာကွယ်ခြင်း၊ လေထုညစ်ညမ်းမှု ထိန်းချုပ်ခြင်းနှင့် အခြားသော အလားတူကိစ္စရပ်များအရ သတ်မှတ်ပြဋ္ဌာန်းထားသော တည်ဆဲဥပဒေများ၊ ဒေသဆိုင်ရာ စည်းမျဉ်းများ၊ စည်းကမ်းချက်များ၊ လုပ်ထုံးလုပ်နည်းများနှင့် အမိန့်များကိုလည်း လိုက်နာသွားမည်ဖြစ်ပါသည်။

23.2 The company shall also adopt every reasonable precaution which is necessary or expedient to prevent fire and pollution from occurring and to ensure industrial safety of persons at the Plot, and shall comply with any reasonable directive, instruction and requirement as may be notified from time to time, and all laws, bye-laws, rules, regulations or order for the time being in force with respect to fire, prevention, pollution control and others similar matters.

## ၂၄ စာရင်းရှင်း ဖျက်သိမ်းခြင်း
## 24. LIQUIDATION

၂၄.၁ စာရင်းရှင်း ဖျက်သိမ်းခြင်း လုပ်ငန်းစဉ်

24.1 Liquidation Procedure

သဘောတူညီမှု သက်တမ်းကုန်ဆုံးခြင်းအရ သို့မဟုတ် ကုမ္ပဏီအား တရားဝင်ဖျက်သိမ်းရန် ဆောင်ရွက်ချက်၏ အတည်ပြုချက်အရ ဒါရိုက်တာများ ဘုတ်အဖွဲ့သည် မြန်မာနိုင်ငံ၏ သက်ရောက်နိုင်သော ဥပဒေများအရ လိုအပ်သော စာရင်းရှင်း ဖျက်သိမ်းရေးအရာရှိအား ခန့်အပ်မည်ဖြစ်သည်။

Upon the expiry of the Agreement or the approval of the application to dissolve the Company, the Board of Directors shall appoint a liquidator as required under applicable laws of Myanmar.

၂၄.၂ စာရင်းရှင်း ဖျက်သိမ်းခြင်း အစီအစဉ်

24.2 Liquidation Plan

စာရင်းရှင်း ဖျက်သိမ်းရေးအရာရှိသည် ကုမ္ပဏီ၏ ပိုင်ဆိုင်မှုများနှင့် ပေးဆပ်ရန် တာဝန်များအား စစ်ဆေးခြင်းဖြင့် စီမံဆောင်ရွက်မည်ဖြစ်ပြီး ဤသဘောတူညီမှု၏ သတ်မှတ်ချက်များနှင့်အညီ စာရင်းရှင်း ဖျက်သိမ်းခြင်း အစီအစဉ်အား ဖြစ်ပေါ်စေမည်။

The liquidator shall conduct a thorough examination of the Company's assets and liabilities and shall develop a liquidation plan in accordance with the provisions of this Agreement.

၂၄.၃ ပိုင်ဆိုင်မှုများကို ခွဲဝေစီမံခြင်း

24.3 Disposal of Assets

(က) ဤစာချုပ်စာတမ်းတွင် ဖော်ပြထားသော ခြွင်းချက်များအရ စာရင်းရှင်း ဖျက်သိမ်းရေးအရာရှိသည် ဖြစ်နိုင်သည့် အမြင့်ဆုံးဈေးနှုန်းဖြင့် ကုမ္ပဏီ၏ ပိုင်ဆိုင်မှုများအား ရောင်းချရန် အကောင်းဆုံးသော လုပ်ဆောင်ချက်များကို ဆောင်ရွက်မည်။

(a) Subject to the exceptions listed herein, the liquidator shall use its best efforts to sell the Company's assets at the highest possible prices; and

(ခ) လွှဲပြောင်းခြင်းတွင် ဖော်ပြထားသော အခေါ်အဝေါ်နှင့် သတ်မှတ်ချက်များအရ အဖွဲ့တစ်ခုစီသည် ကုမ္ပဏီ၏ ပိုင်ဆိုင်မှု တစ်ခုစီ သို့မဟုတ် ပိုင်ဆိုင်မှု တစ်ခုလုံးအားကြားနေ အဖွဲ့အစည်းထံ ရောင်းချရန် လက်ဦးဝယ်ယူနိုင်ခွင့် ရှိမည်ဖြစ်သည်။ အဖွဲ့တစ်ခုစီ၏ လက်ဦးဝယ်ယူနိုင်ခွင့် အမှာစာအား စာရင်းရှင်း ဖျက်သိမ်းရေးအရာရှိမှ ဆုံးဖြတ်မည်။

(b) Each Party shall, under the same terms and conditions of transfer, have the right of preemption to any third party to buy any single asset or the entire assets of the Company. The order of the pre-emptive rights of each Party shall be decided by the Liquidator.

၂၄.၄ စာရင်းရှင်း ဖျက်သိမ်းရေးဆိုင်ရာ ရောင်းရငွေများအား ပေးဝေခြင်း

24.4 Distribution of Liquidation Proceeds

တင်ရှိနေသော အကြွေးများအား ပေးဆပ်ခြင်းနှင့် ကုမ္ပဏီ၏ ပိုင်ဆိုင်မှုများအား စာရင်းရှင်း ဖျက်သိမ်းခြင်း ပြီးမြောက်သောအခါ စာရင်းလက်ကျန်ငွေအား ရှယ်ယာအချိုးများအရ အဖွဲ့များထံ ပေးမည်ဖြစ်သည်။

After the settlement of all its outstanding debts and the liquidation of the Company's assets,

the balance, if any, shall be paid to the Parties according to the ratio of their shares.

## ၂၅ အထွေထွေ
## 25. GENERAL

၂၅.၁ အောက်တွင် ဖော်ပြထားသော အပိုဒ်ငယ် ၂၅.၂ အရ ဤသဘောတူညီမှုတွင် ဤနေရာရှိ အဖွဲ့များကြားတွင်ရှိသော အပြည့်အဝ နားလည်သဘောပေါက်ခြင်းများ ပါရှိ၍ ဤသဘောတူညီမှု၏ အကြောင်းအရာနှင့်အညီ ဦးစားပေး နားလည်သဘောပေါက်ခြင်း နှင့်/သို့မဟုတ် ဤနေရာရှိ အဖွဲ့များကြားတွင်ရှိသော သဘောတူညီမှုများကို အစားထိုးနိုင်မည် ဖြစ်ပါသည်။

25.1 Subject to Clause 25.2 below, this Agreement contains the entire understanding between the Parties hereto and supersedes any prior understanding and/or Agreements between the Parties hereto respecting the subject matter of this Agreement.

၂၅.၂ သဘောတူညီမှုအား ဖွဲ့စည်းတည်ဆောက်ခြင်းနှင့် ဆက်လက်လုပ်ဆောင်ခြင်းအတွက် လိုအပ်သောသဘောတူညီမှုတွင် ပါဝင်မည့်အချိန် သို့မဟုတ် ပါဝင်သောအချိန်၌ အဖွဲ့များကြားရှိ အခြားသော သဘောတူညီမှုများအား ဤသဘောတူညီမှုမှ အကျုံးဝင်စေမည် ဖြစ်သည်။ အထက်တွင် ရေးသားထားသော ရက်၊ လနှင့် ခုနစ်များအရ မျက်မြင်သက်သေများရှေ့မှောက်၌ အဖွဲ့များမှ ဤစာချုပ်စာတမ်းတွင် လက်မှတ်ရေးထိုးပါသည်။

25.2 This Agreement will encompass any other agreements between Parties, entered into around or at the time of entering in to the Agreement, which are necessary for the formation and running of the Agreement.

In Witness where of the Parties have hereunto set their hands to this Agreement in duplicate the day, month and year first above written.

၂၅.၃ ဤကတိစာချုပ်အား အင်္ဂလိပ်ဘာသာ တစ်ခုတည်းဖြင့်သာ စီမံဆောင်ရွက်မည် ဖြစ်ပါသည်။ ဤကတိစာချုပ်အား အခြား မည်သည့်ဘာသာသို့ ပြန်ဆိုသည်ဖြစ်စေ အင်္ဂလိပ်ဘာသာဖြင့် တင်ဆက်မှုအား ပြဋ္ဌာန်းထားရှိမည် ဖြစ်သည်။

25.3 This Agreement shall be executed in English language only. If this Agreement is translated into any other language, the English language version shall prevail.

**Gaw Kyi Seng (ခ) ဦးကြည်စိန်**

**Gaw Kyi Seng (B) U Kyi Sein**

နှင့် ကိုယ်စားလှယ်အတွက်

For and on behalf of

လက်မှတ်:

Signed by:__________________________________________________

<u>မျက်မြင်သက်သေ</u>

<u>Witness</u>

__________________________________________________________

အမည်:

Name:____________________________________________________________

မှတ်ပုံတင်/နိုင်ငံကူးလက်မှတ် နံပါတ်:

ID/Passport No.:__________________________________________________

**Global Wealth (SG) Investment Holding Pte. Ltd.**

နှင့် ကိုယ်စားလှယ်အတွက်

For and on behalf of

**Global Wealth (SG) Investment Holding Pte. Ltd.**

လက်မှတ်:

Signed by: __________________________________________________

ဒါရိုက်တာ

Director

MINISTRY OF PLANNING AND FINANCE
DIRECTORATE OF INVESTMENT AND COMPANY ADMINISTRATION

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
စီမံကိန်းနှင့်ဘဏ္ဍာရေးဝန်ကြီးဌာန

# ကုမ္ပဏီမှတ်ပုံတင်လက်မှတ် (ယာယီ)

အမှတ် ...၂၉၅ အက်ဖ်စီ......... / ...၂၀၁၈–၂၀၁၉ (ရက)

မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေအရ ....ကွမ်ဟဲ အင်တဲ(စ်)ထရီ မြန်မာ ကုမ္ပဏီ.....
လီမိတက်................................ အား ပေးရန်တာဝန် ကန့်သတ်ထားသော လီမိတက်
ကုမ္ပဏီအဖြစ် ..၂၀၁၈ခုနှစ်၊ ..........ဇွန်.........လ၊ ၂၅ ရက်နေ့တွင် မှတ်ပုံတင်ခွင့်ပြုလိုက်သည်။

ညွှန်ကြားရေးမှူးချုပ်(ကိုယ်စား)
(မျိုးမင်း ၊ ညွှန်ကြားရေးမှူး)
ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန

THE GOVERNMENT OF THE REPUBLIC OF THE UNION OF MYANMAR
MINISTRY OF PLANNING AND FINANCE

# CERTIFICATE OF INCORPORATION (TEMPORARY)

NO. .........295 FC....... of .........2018-2019 (YGN)

I hereby certify that ...GUANGHE INDUSTRY MYANMAR COMPANY LIMITED ... is incorporated under the Myanmar Companies Act as a Limited Company on the ...TWENTY-FIFTH... day of ...JUNE, ...TWO THOUSAND AND EIGHTEEN...

**For Director General**
**(Myo Min - Director)**
Directorate of Investment and Company Administration

ဤကုမ္ပဏီ မှတ်ပုံတင် လက်မှတ်(ယာယီ)သည် မှတ်ပုံတင်ရက်စွဲ (၂၅-၆-၂၀၁၈) မှ (၂၄-၁၂-၂၀၁၈) ရက်နေ့အထိ (၆)လသက်တမ်း အတွက်သာ ဖြစ်သည်။ ယာယီသက်တမ်း မကုန်ဆုံးမီ အမြဲတမ်းမှတ်ပုံတင် လက်မှတ် (မူရင်း)နှင့် လဲလှယ်ရမည်ဖြစ်ပါသည်။

ညွှန်ကြားရေးမှူးချုပ်(ကိုယ်စား)
(သက်ပိုင်၊ဒုတိယညွှန်ကြားရေးမှူး)

Issued Date:

MINISTRY OF PLANNING AND FINANCE

# THE GOVERNMENT OF THE REPUBLIC OF THE UNION OF MYANMAR
## MINISTRY OF PLANNING AND FINANCE
## FORM 1
## FORM OF PERMIT (TEMPORARY)
**(See section 27 A)**

Permit No. 295 FC / 2018-2019 (YGN)

Date 25th June, 2018

The Ministry of Planning and Finance of the Government of the Republic of the Union of Myanmar in pursuance of the Myanmar Companies Act hereby grants a permit to the GUANGHE INDUSTRY MYANMAR COMPANY LIMITED in respect of which particulars are detailed below, to carry on its business within the Republic of the Union of Myanmar subject to the provisions contained in the said Act.

| | | |
|---|---|---|
| (1) | Name of the Company | Guanghe Industry Myanmar Co., Ltd. |
| (2) | Country of incorporation of the company. | The Republic of the Union of Myanmar. |
| (3) | Location of the company's Head Office and / or Principal Office in the Republic of the Union of Myanmar. | Kwin No.521/A, Kwin Nane-Koel Lone Myount Kwin, Holding No.1/1+2/4, Kyat Phyu Kan Village (1) Street, Thadaepin Village Groups, Hmawbi Township, Yangon. |
| (4) | The object for which the company is formed (field of business). | Drinking water and beverage production and sales |
| (5) | (a) The amount of Capital and the number of shares into which the Capital is divided. | USD 10,000,000 divided into 10,000,000 shares of USD 1 each. |
| | (b) If more than one class of shares is authorised, the description of each class. | Only one class. |
| (6) | The names, addresses and nationality of the directors. | As per List attached. |
| (7) | The maximum amount of indebtedness which may be incurred by the company and also a prohibition against the contracting of debts in excess of that amount. | As per conditions attached. |
| (8) | Period of validity of permit. | June, 25 2018 to December, 24, 2018. (SIX MONTHS) |
| (9) | Statement of compliance with legal requirements for issue of Capital including the amount to be paid in before business is commenced. | As per conditions attached. |
| (10) | Statement of compliance with such conditions as may be prescribed. | The conditions attached to the permit and conditions as may be prescribed from time to time are also to be strictly adhered to by the company. |

By order

**For Director General**
**(Myo Min - Director)**
**Directorate of Investment and Company Administration**

The business objectives mentioned in the Memorandum of Association shall be allowed to perform.If it is necessary, permit or license from relevant Union Ministries, Departments and Organizations of the Republic of the Union of Myanmar must be obtained in accordance with existing laws, rules and regulations.

Issued Date:

မြန်မာနိုင်ငံကုမ္ပဏီများအက်ဥပဒေ

အစုရှယ်ယာများဖြင့် ပေးရန်တာဝန် ကန့်သတ်ထားသော အများနှင့် မသက်ဆိုင်သည့် ကုမ္ပဏီ

# ကွမ်ဟဲ အင်တဲ(စ်)ထရီ မြန်မာ **ကုမ္ပဏီ လီမိတက်**

၏

# သင်းဖွဲ့မှတ်တမ်း

နှင့်

# သင်းဖွဲ့စည်းမျဉ်းများ

❖❖❖❖

**THE MYANMAR COMPANIES ACT**

**PRIVATE COMPANY LIMITED BY SHARES**

# Memorandum Of Association

*AND*

# Articles Of Association

*OF*

**GUANGHE INDUSTRY MYANMAR COMPANY LIMITED**

# မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ

အစုရှယ်ယာများဖြင့် ပေးရန်တာဝန် ကန့်သတ်ထားသော အများနှင့် မသက်ဆိုင်သည့် ကုမ္ပဏီ

## ကွမ်ပဲ အင်တဲ(စ်) ထရီ မြန်မာ **ကုမ္ပဏီ လီမိတက်**

၏

## သင်းဖွဲ့မှတ်တမ်း

❖❖❖❖❖❖❖

၁။ **ကုမ္ပဏီ၏ အမည်သည်** ကွမ်ပဲ အင်တဲ(စ်) ထရီ မြန်မာ **ကုမ္ပဏီ လီမိတက် ဖြစ်ပါသည်။**

၂။ ကုမ္ပဏီ၏ မှတ်ပုံတင် အလုပ်တိုက်သည် ပြည်ထောင်စု မြန်မာနိုင်ငံတော်အတွင်း တည်ရှိရမည်။

၃။ ကုမ္ပဏီ တည်ထောင်ရခြင်း၏ ရည်ရွယ်ချက်များမှာ တစ်ဖက်စာမျက်နှာပါအတိုင်းဖြစ်ပါသည်။

၄။ အစုဝင်များ၏ ပေးရန်တာဝန်ကို ကန့်သတ်ထားသည်။

၅။ ကုမ္ပဏီ၏ သတ်မှတ်မတည်ငွေရင်းသည် ကျပ် ယူအက်စ်ဒီ ၁၀.၀၀၀.၀၀၀ /-(ကျပ် အမေရိကန်ဒေါ်လာသိန်းတစ်ရာ တိတိ) ဖြစ်၍ငွေကျပ်မှ ယူအက်စ်ဒီ ၁ /-(ကျပ် အမေရိကန်ဒေါ်လာတစ်ဒေါ်လာ တိတိ) တန် အစုရှယ်ယာပေါင်း ( ၁၀.၀၀၀.၀၀၀ )ခွဲထားပါသည်။ ကုမ္ပဏီ၏ရင်းနှီးငွေကို ကုမ္ပဏီ၏စည်းမျဉ်းများနှင့်လက်ရှိတရားဝင် တည်ဆဲဖြစ်နေသောတရားဥပဒေအထွေထွေ ပြဋ္ဌာန်းချက်များနှင့်အညီ သင်းလုံးကျွတ်အစည်းအဝေး၌ တိုးမြှင့်နိုင်ခွင့်၊ လျှော့ချနိုင်ခွင့်နှင့် ပြင်ဆင်နိုင်ခွင့် အာဏာ ရှိစေရမည်။

ဒါ ကုမ္ပဏီတည်ထောင်ရခြင်း၏ ရည်ရွယ်ချက်များမှာ

**(၁) သောက်ရေသန့်၊ အဖျော်ယမကာ ထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း။**

၇။ ကုမ္ပဏီမှ သင့်တော်လျှောက်ပတ်သည်ဟု ယူဆပါက ကုမ္ပဏီ၏ စီးပွားရေးလုပ်ငန်းတွင် အကျိုးရှိ စေရန်အတွက် မည်သည့်ပုဂ္ဂိုလ်၊ စီးပွားရေးအဖွဲ့အစည်း၊ ကုမ္ပဏီ၊ဘဏ်၊ သို့မဟုတ်၊ ငွေကြေး အဖွဲ့အစည်းထံမှမဆို ငွေချေးယူရန်။

ခြွင်းချက်။ ကုမ္ပဏီသည် အထက်ဖော်ပြပါ ရည်ရွယ်ချက်များကို ပြည်ထောင်စုသမ္မတနိုင်ငံတော် အတွင်း၌ ဖြစ်စေ၊ အခြားမည်သည့် အရပ်ဒေသ၌ဖြစ်စေ၊ အချိန်ကာလအလိုက် တည်မြဲနေသော တရားဥပဒေများ၊ အမိန့်ကြော်ငြာစာများ၊ အမိန့်များက ခွင့်ပြုထားသည့် လုပ်ငန်းများမှအပ အခြားလုပ်ငန်း များကို လုပ်ကိုင်ဆောင်ရွက်ခြင်းမပြုပါ။ ထို့အပြင် ပြည်ထောင်စု သမ္မတမြန်မာနိုင်ငံတော်အတွင်း၌ အချိန် ကာလအားလျော်စွာ တည်မြဲနေသည့် တရားဥပဒေ ပြဋ္ဌာန်းချက်များ၊ အမိန့်ကြော်ငြာစာများ၊ အမိန့်များနှင့် လျော်ညီသင့်တော်ခြင်း သို့မဟုတ်၊ ခွင့်ပြုထားခြင်းရှိမှသာလျှင် လုပ်ငန်းများကို ဆောင်ရွက်မည်ဟု ခြွင်းချက်ထားရှိပါသည်။

အောက်တွင် အမည်၊ နိုင်ငံသား၊ နေရပ်နှင့် အကြောင်းအရာစုံလင်စွာပါသော ဇယားတွင် လက်မှတ်ရေးထိုးသူကျွန်ုပ်တို့ ကိုယ်စီကိုယ်ငှသည် ဤသင်းဖွဲ့မှတ်တမ်းအရ ကုမ္ပဏီတစ်ခုဖွဲ့စည်းရန် လိုလားသည့်အလျောက် ကျွန်ုပ်တို့၏ အမည်အသီးသီးနှင့် ယှဉ်တွဲ၍ပြထားသော အစုရှယ်ယာများကို ကုမ္ပဏီ၏ မတည်ရင်းနှီးငွေတွင် ထည့်ဝင်ရယူကြရန် သဘောတူကြပါသည်။

| စဉ် | အစုထည့်ဝင်သူများ၏ အမည်၊ နေရပ်လိပ်စာနှင့်အလုပ်အကိုင် | နိုင်ငံသားနှင့် အမျိုးသား မှတ်ပုံတင်အမှတ် | ဝယ်ယူသော အစုရှယ်ယာ ဦးရေ | ထိုးမြဲလက်မှတ် |
|---|---|---|---|---|
| 1 | Global Wealth (SG) Investment Holding PTE.Ltd.<br>(Incorporated In Singapore)<br>Representative By;<br>Mr.Luo Guo Yun<br>Merchant<br>9-100# Hilltops 99-101 Carinhill Circle, Singapore. | Chinese<br>PP.No<br>E46400356 | 120,000<br>(80%) | |
| 2 | U Kyi Sein<br>Merchant<br>No.146, Ground Floor, 15 Street, No.7 Quarter, Lanmadaw Township, Yangon. | Myanmar<br>12/TaKaNa<br>(E)000051 | 30,000<br>(20%) | |

ရန်ကုန်။ နေ့စွဲ၊ ၂၀၁၈ ခုနှစ် ဇွန် လ၊ ၂၇ ရက်။

အထက်ပါလက်မှတ်ရှင်များသည် ကျွန်ုပ်တို့၏ ရှေ့မှောက်တွင် လက်မှတ်ရေးထိုးကြပါသည်။

ဒေါ်သင်ဇာလှိုင် (LL.B)
တရားလွှတ်တော်ရှေ့နေ(စဉ်-၈၁၈၁/၁၂)
အမှတ်(၄၆)၊ပထမထပ်၊မဟာဗန္ဓုလပန်းခြံလမ်း
ကျောက်တံတားမြို့နယ်၊ ရန်ကုန်မြို့။
Ph: 09 421013526 , 09 799607379

မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ

အစုရှယ်ယာများဖြင့် ပေးရန်တာဝန် ကန့်သတ်ထားသော အများနှင့် မသက်ဆိုင်သည့် ကုမ္ပဏီ

# ကွမ်ဟဲ အင်တဲ(စ်) ထရီ မြန်မာ ကုမ္ပဏီ လီမိတက်

၏

## သင်းဖွဲ့စည်းမျဉ်းများ

❖❖❖❖❖❖❖

၁။ ဤသင်းဖွဲ့စည်းမျဉ်းနှင့် လိုက်လျောညီထွေမဖြစ်သည့် စည်းမျဉ်းများမှအပ၊ မြန်မာနိုင်ငံ ကုမ္ပဏီများအက်ဥပဒေ နောက်ဆက်တွဲ ပထမ ဇယားပုံစံ 'က' ပါစည်းမျဉ်းများသည် ဤကုမ္ပဏီနှင့် သက်ဆိုင်စေရမည်။ မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေပုဒ်မ ၁၇(၂)တွင် ဖော်ပြပါရှိသည့် မလိုက်နာ မနေရ စည်းမျဉ်းများသည် ဤကုမ္ပဏီ နှင့်အစဉ်သဖြင့် သက်ဆိုင်စေရမည်။

### အများနှင့်မသက်ဆိုင်သောကုမ္ပဏီ

၂။ ဤကုမ္ပဏီသည် အများနှင့် မသက်ဆိုင်သည့် ကုမ္ပဏီဖြစ်၍ အောက်ပါ သတ်မှတ်ချက်များသည် အကျိုးသက် ရောက်စေရမည်။

(က) ဤကုမ္ပဏီက ခန့်အပ်ထားသော ဝန်ထမ်းများမှအပ၊ ဤကုမ္ပဏီ၏ အစုရှင် အရေအတွက်ကို ငါးဆယ် အထိသာကန့်သတ်ထားသည်။

(ခ) ဤကုမ္ပဏီ၏အစုရှယ်ယာ သို့မဟုတ် ဒီဘင်ချာ သို့မဟုတ် ဒီဘင်ချာစတော့(ခ်) တစ်ခုခုအတွက်ငွေထည့် ဝင်ရန် အများပြည်သူတို့အား ကမ်းလှမ်းခြင်းမပြုလုပ်ရန် တားမြစ်ထားသည်။

### မ,တည်ရင်းနှီးငွေနှင့် အစုရှယ်ယာ

၃။ ကုမ္ပဏီ၏ သတ်မှတ်မတည်ငွေရင်းသည် ကျပ် **ယူအက်စ်ဒီ ၁၀.၀၀၀.၀၀၀/-** /-( ကျပ် **အမေရိကန်ဒေါ်လာသိန်းတစ်ရာ** တိတိ )ဖြစ်၍ ငွေကျပ် **ယူအက်စ်ဒီ၁** /-( ကျပ် **အမေရိကန်ဒေါ်လာတစ်ဒေါ်လာ** တိတိ )တန် အစုရှယ်ယာပေါင်း ( **၁၀.၀၀၀.၀၀**)ခွဲထားပါသည်။ ကုမ္ပဏီ၏ရင်းနှီးငွေကို ကုမ္ပဏီ၏ စည်းမျဉ်းများနှင့် လက်ရှိတရားဝင်တည်ဆဲဖြစ်နေသောတရားဥပဒေပြဋ္ဌာန်းချက်များနှင့် အညီ အထွေထွေသင်းလုံးကျွတ်အစည်းအဝေး၌ တိုးမြှင့်နိုင်ခွင့်၊ လျှော့ချနိုင်ခွင့်နှင့် ပြင်ဆင်နိုင်ခွင့်အာဏာရှိစေရမည်။

၄။ မြန်မာနိုင်ငံကုမ္ပဏီများ အက်ဥပဒေပါ ပြဋ္ဌာန်းချက်များကို မထိခိုက်စေလျက် အစုရှယ်ယာများသည် ဒါရိုက်တာများ၏ ကြီးကြပ်ကွပ်ကဲမှုအောက်တွင် ရှိစေရမည်။ ၎င်းဒါရိုက်တာများသည် သင့်လျော်သော ပုဂ္ဂိုလ်များအား သတ်မှတ်ချက် အခြေအနေ တစ်စုံတစ်ရာဖြင့် အစုရှယ်ယာများကို ခွဲဝေချထားခြင်း သို့မဟုတ် ထုခွဲရောင်းချခြင်း တို့ကိုဆောင်ရွက် နိုင်သည်။

၅။ အစုရှယ်ယာ လက်မှတ်များကို အထွေထွေမန်နေဂျာ သို့မဟုတ် ဒါရိုက်တာအဖွဲ့ကသတ်မှတ်သည့် အခြားပုဂ္ဂိုလ်များက လက်မှတ်ရေးထိုး၍ ကုမ္ပဏီ၏ တံဆိပ် ရိုက်နှိပ် ထုတ်ပေးရမည်။ အစုရှယ်ယာ လက်မှတ်သည် ပုံပန်းပျက်ခြင်း၊ ပျောက်ဆုံးခြင်း၊ သို့မဟုတ် ပျက်စီးခြင်းဖြစ်ပါက အဖိုးအခဖြင့် ပြန်လည်အသစ်ပြုလုပ်ပေးမှုကို သော်လည်းကောင်း၊ ဒါရိုက်တာများက သင့်လျော်သည်ဟု ယူဆသော အခြားသက်သေခံ အထောက်အထား တစ်စုံတစ်ရာကို တင်ပြစေ၍သော်လည်းကောင်းထုတ်ပေးနိုင်သည်။ ကွယ်လွန်သွားသော အစုရှယ်ယာရှင်တစ်ဦး၏ တရားဝင်ကိုယ်စားလှယ်ကို ဒါရိုက်တာ များကအသိအမှတ်ပြုပေးရမည်ဖြစ်သည်။

၆။ ဒါရိုက်တာများသည် အစုရှင်များက ၎င်းတို့၏ အစုရှယ်ယာများအတွက် မပေးသွင်းရသေးသော ငွေများကို အခါအားလျော်စွာတောင်းဆိုနိုင်သည်။ အစုရှင်တိုင်းကလည်း ၎င်းတို့ထံတောင်းဆိုသည့် အကြိမ်တိုင်းအတွက် ဒါရိုက်တာများက သတ်မှတ်သည့် အချိန်နှင့်နေရာတွင် ပေးသွင်းစေရန် တာဝန်ရှိစေရမည်။ ဆင့်ခေါ်မှုတစ်ခုအတွက်အရစ်ကျပေးသွင်းစေခြင်း၊ သို့မဟုတ်ပယ်ဖျက်ခြင်း သို့မဟုတ် ရွှေ့ဆိုင်းခြင်းတို့ကို ဒါရိုက်တာများက သတ်မှတ်နိုင်သည်။

## ဒါရိုက်တာများ

၇။ သင်းလုံးကျွတ် အစည်းအဝေးက တစ်စုံတစ်ရာ သတ်မှတ်ပြဋ္ဌာန်းမှု မပြုလုပ်သမျှ ဒါရိုက်တာများ၏ အရေအတွက်သည် ( ၂ ) ဦးထက်မနည်း ( ၅၀ ) ဦးထက်မများစေရ။
ပထမဒါရိုက်တာများသည် –

(၁) Mr. Luo Guoyun
(၂) Mr. Liu Xieyou
(၃)
(၄)
(၅)

**တို့ဖြစ်ကြပါသည်။**

၈။ ဒါရိုက်တာများသည် ၎င်းတို့အနက်မှ တစ်ဦးကို မန်နေးဂျင်းဒါရိုက်တာ အဖြစ် အချိန်အခါအလိုက် သင့်လျော်သော သတ်မှတ်ချက်များ၊ ညဏ်ပူဇော်ခများဖြင့် ခန့်ထားရမည်ဖြစ်ပြီး အခါအားလျော်စွာ ဒါရိုက်တာအဖွဲ့က ပေးအပ်သော အာဏာများ အားလုံးကို ၎င်းကအသုံးပြုနိုင်သည်။

၉။ ဒါရိုက်တာတစ်ဦးဖြစ်မြောက်ရန် လိုအပ်သော အရည်အချင်းသည် ကုမ္ပဏီ၏ အစုရှယ်ယာ အနည်းဆုံး (–)စုကို ပိုင်ဆိုင်ခြင်းဖြစ်၍ ၎င်းသည် မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေပုဒ်မ ၈၅ ပါ ပြဋ္ဌာန်းချက်များကို လိုက်နာရန် တာဝန်ရှိသည်။

၁၀။ အစုရှယ်ယာများ လွှဲပြောင်းရန် တင်ပြချက်ကို မည်သည့် အကြောင်းပြချက်မျှ မပေးဘဲ ဒါရိုက်တာအဖွဲ့သည် ၎င်းတို့ပြည့်စုံ၍ ချုပ်ချယ်ခြင်းကင်းသော ဆင်ခြင်တွက်ဆမှုဖြင့် မှတ်ပုံတင်ရန် ငြင်းဆိုနိုင်သည်။

## ဒါရိုက်တာများ၏ ဆောင်ရွက်ချက်များ

၁၁။ ဒါရိုက်တာများသည် ၎င်းတို့ သင့်လျော်သည် ထင်မြင်သည့်အတိုင်း လုပ်ငန်းဆောင်ရွက်ရန် တွေ့ဆုံ ဆွေးနွေးခြင်း၊ အစည်းအဝေး ရွှေ့ဆိုင်းခြင်း၊ အချိန်မှန်စည်းဝေးခြင်း၊ အစည်းအဝေးအထမြောက်ရန် အနည်းဆုံး ဒါရိုက်တာဦးရေသတ်မှတ်ခြင်းတို့ကို ဆောင်ရွက်နိုင်သည်။ ယင်းသို့ မသတ်မှတ်ပါက ဒါရိုက်တာနှစ်ဦးတက်ရောက်လျှင် အစည်းအဝေးထမြောက်ရမည်။ အစည်းအဝေးတွင် မည်သည့်ပြဿနာမဆိုပေါ်ပေါက်ပါကမန်နေးဂျင်းဒါရိုက်တာ၏ အဆုံးအဖြတ်သည်အတည်ဖြစ်ရမည်။ မည်သည့် ကိစ္စများကိုမဆို မဲခွဲဆုံးဖြတ်ရာတွင် မဲအရေအတွက် တူနေပါက သဘာပတိသည် ဒုတိယမဲ သို့မဟုတ် အနိုင်မဲကို ပေးနိုင်သည်။

၁၂။ ဒါရိုက်တာများ၏ အစည်းအဝေးကို မည်သည့်ဒါရိုက်တာကမဆို အချိန်မရွေး ခေါ်နိုင်သည်။

၁၃။ ဒါရိုက်တာအားလုံးက လက်မှတ်ရေးထိုးထားသော ရေးသားထားသည့်ဆုံးဖြတ်ချက်တစ်ရပ်သည် နည်းလမ်းတကျ ခေါ်ယူကျင်းပသော အစည်းအဝေးက အတည်ပြုသည့် ဆုံးဖြတ်ချက်ကဲ့သို့ပင် ကိစ္စအားလုံး အတွက် အကျိုးသက်ရောက်စေရမည်။

## ဒါရိုက်တာများ၏ လုပ်ပိုင်ခွင့်နှင့်တာဝန်များ

၁၄။ မြန်မာနိုင်ငံ ကုမ္ပဏီများအက်ဥပဒေ နောက်ဆက်တွဲဇယားပုံစံ (က)ပါ စည်းမျဉ်းအပိုဒ် ၇၁ တွင် ပေးအပ်ထားသော အထွေထွေ အာဏာများကို မထိခိုက်စေဘဲ ဒါရိုက်တာများသည် အောက်ဖော်ပြပါ အာဏာများ ရှိရမည်ဟု အတိအလင်း ထုတ်ဖော်ကြေညာသည်။ အာဏာဆိုသည်မှာ –

(၁) ဒါရိုက်တာများက သင့်လျော်သည်ဟုယူဆသော တန်ဖိုးနှင့်စည်းကမ်းများ၊ အခြေအနေများ သတ်မှတ်၍ ကုမ္ပဏီကရယူရန်အာဏာရှိသည့် မည်သည့်ပစ္စည်း၊ အခွင့်အရေးများ၊ အခွင့်အလမ်းများကိုမဆိုဝယ်ယူရန် သို့မဟုတ် အခြားနည်းလမ်းများဖြင့် ရယူပိုင်ဆိုင်ရန်အပြင် ကုမ္ပဏီကပိုင်ဆိုင်ခွင့်ရှိသောမည်သည့်ပစ္စည်း၊ အခွင့်အရေးများ၊ အခွင့်အလမ်းများကိုမဆို သင့်တော်သောစည်းကမ်းချက်များ သတ်မှတ်၍ရောင်းချခြင်း၊ အငှားချခြင်း၊ စွန့်လွှတ်ခြင်း၊ သို့မဟုတ် အခြားနည်းလမ်းများဖြင့် ဆောင်ရွက်ခြင်းတို့ကို ပြုလုပ်ရန်။

(၂) သင့်လျော်သောစည်းကမ်းသတ်မှတ်ချက်များဖြင့် ငွေကြေးများကိုချေးငှားရန်သို့မဟုတ်အဆိုပါချေးငှားသော ငွေကြေးများကို ပြန်လည်ပေးဆပ်ရန်အတွက် အာမခံများထားရှိရန်အပြင်၊ အထူးသဖြင့် ဤကုမ္ပဏီ၏ ဒီဘင်ချာများ၊ ဒီဘင်ချာစတော့(ခ်)များ၊ ခေါ်ယူခြင်းမပြုရသေးသော ရင်းနှီးငွေများအပါအဝင် ယခုလက်ရှိနှင့် နောင်ရှိမည့် ပစ္စည်းများအားလုံး သို့မဟုတ် တစ်စိတ်တစ်ဒေသကို အပေါင်ပြု၍ ထုတ်ဝေရန်။

(၃) ဤကုမ္ပဏီက ရယူထားသော အခွင့်အရေးများ သို့မဟုတ် ဝန်ဆောင်မှုများအတွက် အားလုံး သို့မဟုတ် တစ်စိတ်တစ်ဒေသကို ငွေကြေးအားဖြင့် ပေးချေရန်၊ သို့မဟုတ် အစုရှယ်ယာများ၊ ငွေချေးစာချုပ်များ၊ ဒီဘင်ချာများ သို့မဟုတ် ဤကုမ္ပဏီ၏အခြားသော အာမခံစာချုပ်များကို ထုတ်ပေးရန်၊ ထို့အပြင် အဆိုပါ အစုရှယ်ယာများ ထုတ်ပေးရာ၌ ငွေအပြည့် ပေးသွင်းပြီးသော အစုရှယ်ယာအနေဖြင့် သော်လည်းကောင်း၊ တစ်စိတ်တစ်ဒေသ ပေးသွင်းပြီးသော အစုရှယ်ယာများ အနေဖြင့်သော်လည်းကောင်း သဘောတူညီသကဲ့သို့ ထုတ်ဝေပေးရန်နှင့် အဆိုပါ ငွေချေးစာချုပ်များ၊ ဒီဘင်ချာများ သို့မဟုတ် ကုမ္ပဏီ၏ အခြားသော အာမခံစာချုပ်များဖြင့် ထုတ်ဝေပေးရာ၌ ခေါ်ဆိုခြင်း မပြုရသေးသော ရင်းနှီးငွေများ အပါအဝင် ဤကုမ္ပဏီ၏ ပစ္စည်းအားလုံး သို့မဟုတ် တစ်စိတ်တစ်ဒေသကို အပေါင်ပြု၍ဖြစ်စေ၊ ထိုကဲ့သို့မဟုတ်ဘဲဖြစ်စေ ထုတ်ပေးရန်။

(၄) ဤကုမ္ပဏီနှင့် ပြုလုပ်ထားသော ကန်ထရိုက်စာချုပ်များ၊ တာဝန်ယူထားသည့်လုပ်ငန်းများ ပြီးစီးအောင် ဆောင်ရွက်စေခြင်း အလို့ငှာခေါ်ယူခြင်း မပြုရသေးသော ရင်းနှီးငွေများ အပါအဝင် ဤကုမ္ပဏီ၏ ပစ္စည်းရပ်များ အားလုံး သို့မဟုတ် တစ်စိတ်တစ်ဒေသကို ပေါင်နှံ၍ သော်လည်းကောင်း၊ အပေါင်ပြု၍ သော်လည်းကောင်း သို့မဟုတ် အစုရှယ်ယာများအတွက် ငွေများ တောင်းခံခေါ်ယူ၍ သော်လည်းကောင်း ခွင့်ပြုရန် သို့မဟုတ် သင့်လျော်သည့်အတိုင်း ဆောင်ရွက်ရန်။

(၅) မန်နေဂျာများ၊ အတွင်းရေးမှူးများ၊ အရာရှိများ၊ စာရေးများ၊ ကိုယ်စားလှယ်များနှင့် ဝန်ထမ်းများကိုအမြဲတမ်း၊ ယာယီ သို့မဟုတ် အထူးကိစ္စရပ်များအတွက်ခန့်ထားခြင်း၊ ရပ်စဲခြင်း၊ ဆိုင်းငံ့ခြင်းများအတွက်လည်းကောင်း အဆိုပါ ပုဂ္ဂိုလ်တို့၏တာဝန်များ၊ အာဏာများ၊ လစာငွေများ၊ အခြားငွေကြေးများကို သတ်မှတ်ရာ၌လည်းကောင်း၊ အာမခံပစ္စည်းများ တောင်းခံရာ၌လည်းကောင်း သင့်လျော်သလိုဆောင်ရွက်ရန်၊ ထို့အပြင် အဆိုပါကိစ္စရပ်များအတွက် ကုမ္ပဏီ၏ မည်သည့်အရာရှိကိုမဆို ကိစ္စရပ်အားလုံးကို ဖြစ်စေ၊တစ်စိတ်တစ်ဒေသကိုဖြစ်စေ ဒါရိုက်တာများ၏ကိုယ်စား ဆောင်ရွက်နိုင်ရေးအတွက် တာဝန်လွှဲအပ်ရန်။

(၆) ဤကုမ္ပဏီ၏ ဒါရိုက်တာတစ်ဦးအား ဒါရိုက်တာရာထူးနှင့် တွဲဖက်၍ မန်နေဂျင်း ဒါရိုက်တာ၊ အထွေထွေ မန်နေဂျာ၊ အတွင်းရေးမှူး သို့မဟုတ် ဌာနခွဲ မန်နေဂျာအဖြစ် ခန့်ထားရန်။

(၇) မည်သည့် အစုရှင်ထံမှမဆို ၎င်းတို့၏ အစုရှယ်ယာများအားလုံးကို ဖြစ်စေ၊ အချို့အဝက်ကိုဖြစ်စေ စွန့်လွှတ်ခြင်းအား သဘောတူညီသောစည်းကမ်းများဖြင့် လက်ခံရန်။

(၈) ဤကုမ္ပဏီက ပိုင်ဆိုင်သော သို့မဟုတ် ပိုင်ဆိုင်ခွင့်ရှိသော သို့မဟုတ် အခြားအကြောင်းများကြောင့်ဖြစ်သော မည်သည့် ပစ္စည်းကိုမဆို ကုမ္ပဏီ၏ကိုယ်စား လက်ခံထိန်းသိမ်းထားရန်အတွက် မည်သည့်ပုဂ္ဂိုလ် သို့မဟုတ် ပုဂ္ဂိုလ်များကိုမဆို ခန့်ထားရန်နှင့် အဆိုပါ ယုံမှတ် အပ်နှံခြင်းများနှင့် ပတ်သက်၍ လိုအပ်သော စာချုပ်စာတမ်းများ ချုပ်ဆို ပြုလုပ်ရန်။

(၉) ဤကုမ္ပဏီ၏ အရေးအရာများနှင့် စပ်လျဉ်း၍ ဤကုမ္ပဏီကပြုလုပ်သော သို့မဟုတ် ဤကုမ္ပဏီအပေါ် သို့မဟုတ် ဤကုမ္ပဏီ၏ အရာရှိများအပေါ် ပြုလုပ်သော တရားဥပဒေအရ စွဲဆို ဆောင်ရွက်မှုများကို တရားစွဲဆို၊ အရေးယူ၊ ခုခံကာကွယ်ရန် သို့မဟုတ် ခွင့်လွှတ်ရန်၊ ထို့အပြင် ဤကုမ္ပဏီက ရရန်ရှိသော ကြွေးမြီများနှင့် ဤကုမ္ပဏီအပေါ် တောင်းခံသော ကြွေးမြီများနှင့်ပတ်သက်၍ ပေးဆပ်ရန် အချိန်ကာလ ရွှေ့ဆိုင်းခွင့်ပြုခြင်း သို့မဟုတ် နှစ်ဦးနှစ်ဖက် သဘောတူ ကျေအေးခြင်းများ ပြုလုပ်ရန်။

(၁၀) ဤကုမ္ပဏီက ပေးရန်ရှိသော သို့မဟုတ် ရရန်ရှိသော ငွေတောင်းခံခြင်းများကို ဖြန်ဖြေရေး ခုံသမာဓိထံသို့ ဖြေရှင်းရန်အတွက် အပ်နှံရန်အပြင် ဖြန်ဖြေရေး ခုံသမာဓိ၏ ဆုံးဖြတ်ချက်အတိုင်း လိုက်နာဆောင်ရွက်ရန်။

(၁၁) ဤကုမ္ပဏီက ရရန်ရှိသောတောင်းဆိုချက်၊ တောင်းခံချက်များနှင့် ကုမ္ပဏီသို့ပေးရန်ရှိသော ငွေကြေးများအတွက် ပြေစာများ ပြုလုပ် ထုတ်ပေးခြင်း၊ လျှော်ပစ်ခြင်းနှင့် အခြားသောနည်းဖြင့်စွန့်လွှတ်ခြင်းများကို ပြုလုပ်ရန်။

(၁၂) လူမွဲစာရင်းခံရခြင်း၊ ကြွေးမြီး မဆပ်နိုင်ခြင်း ကိစ္စများနှင့် ပတ်သက်၍ ကုမ္ပဏီ၏ကိုယ်စား ဆောင်ရွက်ရန်။

(၁၃) ငွေလွှဲစာတမ်းများ၊ ချက်လက်မှတ်များ၊ ဝန်ခံကတိစာချုပ်များ ထပ်ဆင့် လက်မှတ်ရေးထိုးခြင်းများ၊ လျှော်ပစ်ခြင်းများ၊ ကန်ထရိုက် စာချုပ်များနှင့်စာရွက်စာတမ်းများကို ကုမ္ပဏီ၏ကိုယ်စား မည်သူက လက်မှတ် ရေးထိုးခွင့်ရှိသည်ကို စိစစ်သတ်မှတ်ရန်။

(၁၄) ဒါရိုက်တာများက သင့်လျော်သည်ဟု ယူဆပါက သင့်လျော် လျောက်ပတ်သောနည်းလမ်းများဖြင့် လတ်တလော အသုံးပြုရန် မလိုသေးသော ကုမ္ပဏီပိုင် ငွေများကို အာမခံပစ္စည်း ပါသည်ဖြစ်စေ၊ မပါသည်ဖြစ်စေ ရင်းနှီးမြှုပ်နှံထားရန်နှင့် စီမံခန့်ခွဲထားရန်။ ထို့အပြင် အချိန်ကာလအားလျော်စွာ မြှုပ်နှံထားသောငွေကို ပြန်လည်ရယူရန်နှင့် ပြင်ဆင်ပြောင်းလွဲရန်။

(၁၅) ဤကုမ္ပဏီ၏ အကျိုးအတွက် ငွေကြေး စိုက်ထုတ် ကုန်ကျခံထားသော ဒါရိုက်တာ သို့မဟုတ် အခြား ပုဂ္ဂိုလ်များက ကုမ္ပဏီ၏ (လက်ရှိနှင့် နောင်တွင်ရှိမည့်) ပစ္စည်းများကို ဤကုမ္ပဏီ၏ အမည်ဖြင့်ဖြစ်စေ၊ ဤကုမ္ပဏီ၏ ကိုယ်စားဖြစ်စေ ပေါင်နှံခြင်းကို သင့်လျော်သည်ဟု ယူဆပါက ဆောင်ရွက်ခွင့်ပြုရန်။ အဆိုပါ ပေါင်နှံခြင်းဆိုရာ၌ ရောင်းချနိုင်သည့် အာဏာနှင့် အခြားသော သဘောတူညီထားသည့် တရားဝင်သော တူညီချက်များနှင့် ဥပဒေပြဋ္ဌာန်းချက်များပါ ပါဝင်သည်။

(၁၆) ဤကုမ္ပဏီကခန့်အပ်ထားသော မည်သည့်အရာရှိသို့မဟုတ် ပုဂ္ဂိုလ်ကိုမဆို အတိအကျဆောင်ရွက်ခဲ့သည့်လုပ်ငန်း သို့မဟုတ် ဆောင်ရွက်မှုတစ်ခုအတွက် ရရှိသော အမြတ်ငွေမှ ကော်မရှင်ပေးခြင်း သို့မဟုတ် ကုမ္ပဏီ၏ အထွေထွေ အမြတ်အစွန်းမှ ခွဲဝေပေး ခြင်းများ ပြုလုပ်ရန်နှင့် အဆိုပါကော်မရှင်များ၊ အမြတ်များခွဲဝေပေးခြင်း စသည်တို့ကို ဤကုမ္ပဏီ၏လုပ်ငန်းကုန်ကျစရိတ် တစ်စိတ်တစ်ဒေသအဖြစ် သတ်မှတ်ရန်။

(၁၇) ဤကုမ္ပဏီ၏လုပ်ငန်းများ၊ အရာရှိများ ဝန်ထမ်းများနှင့် အစုရှင်များအတွက် ထုတ်ပြန်ထားသော စည်းမျဉ်းများ စည်းကမ်းချက်များ၊ စည်းကမ်းဥပဒေများကို အခါအားလျော်စွာ သတ်မှတ်ခြင်း၊ ပြင်ဆင်ခြင်း၊ ဖြည့်စွက်ခြင်း များ ဆောင်ရွက်ရန်။

(၁၈) ဤကုမ္ပဏီ၏လုပ်ငန်းအတွက် ဤကုမ္ပဏီ၏အမည်ဖြင့်ဖြစ်စေ၊ ဤကုမ္ပဏီ၏ကိုယ်စားဖြစ်စေ လိုအပ်သည်ဟု ယူဆလျှင် ညှိနှိုင်းဆွေးနွေးခြင်းနှင့် ကန်ထရိုက်စာချုပ် ချုပ်ဆိုခြင်းများကို ပြုလုပ်ရန်၊ ဖျက်သိမ်းရန်နှင့် ပြင်ဆင်ရန် အပြင် အဆိုပါ ဆောင်ရွက်ချက် စာချုပ်များနှင့် ကိစ္စရပ်များကိုလည်းကောင်း ၎င်းတို့နှင့် စပ်လျဉ်းသော ကိစ္စရပ်များကို လည်းကောင်း လုပ်ကိုင်ဆောင်ရွက်ရန်။

(၁၉) ဒါရိုက်တာများက သင့်လျော်လျောက်ပတ်သည်ဟု ယူဆပါက ကုမ္ပဏီ၏ စီးပွားရေးလုပ်ငန်းတွင် အကျိုးရှိစေရန်အတွက် မည်သည့် ပြည်တွင်းပြည်ပ ပုဂ္ဂိုလ်၊ စီးပွားရေး အဖွဲ့အစည်း၊ ကုမ္ပဏီ သို့မဟုတ် ဘဏ် သို့မဟုတ် ငွေကြေးအဖွဲ့အစည်းထံမှ မဆို ငွေချေးယူရန်။

**အထွေထွေအစည်းအဝေးကြီးများ**

ကုမ္ပဏီကိုဥပဒေအရ ဖွဲ့စည်းတည်ထောင်ပြီးသည့်နေ့မှ တစ်ဆယ့်ရှစ်လအတွင်း အထွေထွေသင်းလုံးကျွတ် အစည်းအဝေးကြီးကိုကျင်းပရမည်။ ထို့နောက် ဒါရိုက်တာအဖွဲ့က သတ်မှတ်ပေးသည့် အချိန်နှင့် နေရာများတွင် ပြက္ခဒိန်နှစ်တစ်နှစ်လျှင် အနည်းဆုံးတစ်ကြိမ် (နောက်ဆုံးကျင်းပသည့် အထွေထွေအစည်းအဝေးကြီးနှင့် တစ်ဆယ့်ငါးလထက် မပိုသည့်အချိန်၌) ကျင်းပရမည်။ သင်းလုံးကျွတ် အစည်းအဝေးစတင်၍ လုပ်ငန်းအတွက် ဆွေးနွေးချိန်တွင် အစည်းအဝေးအထမြောက်ရန် သတ်မှတ်သည့် အစုရှင်အရေအတွက် မတက်ရောက်သော မည်သည့်သင်းလုံးကျွတ် အစည်းအဝေးတွင်မဆို လုပ်ငန်းနှင့် ပတ်သက်၍ ဆုံးဖြတ်ဆောင်ရွက်ခြင်းမပြုရ။ ဤတွင်အခြားနည်း သတ်မှတ်ပြဋ္ဌာန်းခြင်း မရှိလျှင် ထုတ်ဝေထားသည့် မ,တည် ရင်းနှီးငွေ အစုရှယ်ယာများ၏ ငါးဆယ်ရာခိုင်နှုန်းထက်မနည်း ပိုင်ဆိုင်ကြသည့် (နှစ်ဦးထက်မနည်းသော) အစုရှင်များ ကိုယ်တိုင်တက်ရောက်လျှင် လုပ်ငန်းကိစ္စအားလုံး ဆောင်ရွက်ရန်အတွက် အစည်းအဝေးအထမြောက်သည့်ဦးရေ ဖြစ်သည်။ အကယ်၍ ကုမ္ပဏီတွင်အစုရှင်အရေအတွက် နှစ်ဦးတည်းသာရှိသည့် ကိစ္စတွင်မူ ထိုနှစ်ဦးတည်းသည်ပင်လျှင် အစည်းအဝေး အထမြောက်ရန် သတ်မှတ်သည့် အရေအတွက် ဖြစ်စေရမည်။

**အမြတ်ဝေစုများ**

၁၆။ သင်းလုံးကျွတ်အစည်းအဝေးတွင် ဤကုမ္ပဏီ၏ အစုရှင်များအား ခွဲဝေပေးမည့် အမြတ်ဝေစုကို ကြေညာရမည်။ သို့ရာတွင် အမြတ်ဝေစုသည် ဒါရိုက်တာများက ထောက်ခံသော ငွေပမာဏထက် မကျော်လွန်စေရ။ သက်ဆိုင်ရာနှစ်၏ အမြတ်ပမာဏ သို့မဟုတ် အခြားမခွဲဝေရသေးသည့် အမြတ်ပမာဏမှအပ အမြတ်ဝေစုကို ခွဲဝေမပေးရ။

**ရုံးဝန်ထမ်းများ**

၁၇။ ကုမ္ပဏီသည် လုပ်ငန်းရုံးတစ်ခုကို ဖွင့်လှစ်၍ ဆောင်ရွက်မည်ဖြစ်ပြီး အရည်အချင်း ပြည့်မီသူပုဂ္ဂိုလ်တစ်ဦးအား အထွေထွေမန်နေဂျာအဖြစ် ခန့်အပ်ရန်နှင့် အခြားအရည်အချင်း ပြည့်မီသူများအား ရုံးဝန်ထမ်းများအဖြစ် ခန့်အပ်မည်ဖြစ်သည်။ လစာ၊ ခရီးသွားလာစရိတ်နှင့် အခြားအသုံးစရိတ်များကဲ့သို့သော ဥာဏ်ပူဇော်ခများနှင့် အခကြေးငွေများကို ဒါရိုက်တာအဖွဲ့က သတ်မှတ်မည်ဖြစ်ပြီး ၎င်းသတ်မှတ်ချက်များကို သင်းလုံးကျွတ် အစည်းအဝေးက အတည်ပြုရမည်။ အထွေထွေမန်နေဂျာသည် လုပ်ငန်းရုံး၏ ထိရောက်စွာလုပ်ငန်း လည်ပတ်မှုအားလုံးအတွက် တာဝန်ရှိစေရမည်ဖြစ်ပြီး မန်နေဂျင်း ဒါရိုက်တာအားတာဝန်ခံ၍ ဆောင်ရွက်ရမည်။

**ငွေစာရင်းများ**

၁၈။ ဒါရိုက်တာများသည် သင့်လျော်သည့် ငွေစာရင်းစာအုပ်များကို အောက်ဖော်ပြပါ သတ်မှတ်ချက်များနှင့်အညီ ထားသိုထိန်းသိမ်း ဆောင်ရွက်ရမည်။

(၁) ကုမ္ပဏီ၏ ရငွေ၊သုံးငွေများ၏ ပမာဏနှင့် ၎င်းရငွေ၊ သုံးငွေများ ဖြစ်ပေါ်ခြင်းနှင့် စပ်လျဉ်းသည့် အကြောင်းကိစ္စများ။

(၂) ကုမ္ပဏီ၏ ကုန်ပစ္စည်းများ ရောင်းချခြင်းနှင့် ဝယ်ယူခြင်းများ။

(၃) ဤကုမ္ပဏီ၏ ရရန်ပိုင်ခွင့်နှင့် ပေးရန်တာဝန်များ။

၁၉။ ငွေစာရင်းစာအုပ်အားလုံးကို ဤကုမ္ပဏီ၏ မှတ်ပုံတင်ထားသော လုပ်ငန်းရုံး သို့မဟုတ် ဒါရိုက်တာများက သင့်လျော်သည်ဟု ထင်မြင်ယူဆသော အခြားနေရာတွင် သိမ်းဆည်းထားရမည်ဖြစ်ပြီး၊ ရုံးချိန်အတွင်း၌ ဒါရိုက်တာများက စစ်ဆေးနိုင်ရန် ပြသထားရမည်။

**စာရင်းစစ်**

၂၀။ စာရင်းစစ်များကို ခန့်အပ်ထားရမည်။ ၎င်းစာရင်းစစ်များ၏ တာဝန်သည် မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ သို့မဟုတ် အခါအားလျော်စွာပြင်ဆင်သတ်မှတ်သည့် စည်းမျဉ်း စည်းကမ်းများနှင့် လိုက်လျောညီထွေ ဖြစ်ရမည်။

## ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

## ရန်ကုန်မြို့တော်စည်ပင်သာယာရေးကော်မတီ

ဓဂလ၁ဒ၁/ဖုံ-၃၅၈/၁၄ (၂၃၊ ၁၊ ၁၄)

| |
|---|
| ၂၀၁၃ / ၁၄ ခုနှစ်သုံးမြေပုံမှရေးကူး ပေးသည့် မှန်ကန်ကြောင်း သက်သေခံသည့် မိတ္တူမြေပုံ |
| အမည်ပေါက် * * * |
| မြေတိုင်းရပ်ကွက်အမှတ် ၆၂၁/A |
| လူနေရပ်ကွက်အမှတ် - |
| မြေကွက်အမှတ် ၁/၂ , ၂/၄ |
| မြေအမျိုးအစား 'ဗ' မြေ၊ ၎င်း(၁) ဂရန် |
| ဧရိယာ ၂.၆၇ ဧက |
| မြို့နယ် မင်္ဂလာဒုံ |
| စကေး ၁၆" = ၁ မိုင် |
| လျှောက်ထားသည့်အကြောင်းအရာ |
| မြေတိုင်း (၁) မြို့ပြစီမံကိန်းနှင့်မြေစီမံခန့်ခွဲမှုဌာန |
| မြေတိုင်း (၁) မြို့ပြစီမံကိန်းနှင့်မြေစီမံခန့်ခွဲမှုဌာန |
| ဌာနစုမှူး ၁၁/၁/၁၄ မြို့ပြစီမံကိန်းနှင့်မြေစီမံခန့်ခွဲမှုဌာန |

* * *

၁ ဒေါ်ခင်ဝင်း

၂ ဦးအောင်ခင်

၃ ဦးဖေလ

၅၁၁. ၁၅

စာချုပ်စာတမ်းမှတ်ပုံတင်ဌာနမှူး

နေ့စွဲ ၅.၅.၂၀၁၅ စာချုပ်စာတမ်းမှတ်ပုံတင်ရုံး

ရန်ကုန်မြို့။




K 500

ဌာနမှူး (ကိုယ်စား)

မြို့ပြစီမံကိန်းနှင့်မြေစီမံခန့်ခွဲမှုဌာန

| |
|---|
| ၂၀၁၃/၁၄ ခုနှစ်၏သုံး မြေပုံ/မြို့မြေစာရင်းမှ ရေးကူး သော ကောက်နုတ်ချက် မိတ္တူ မြေပုံ/~~မြေရာဇဝင်~~ ဖြစ်၍ တိကျမှန်ကန်ကြောင်း ထောက်ခံပါသည်။ |
| (မြို့ပြ/မြေယာဌာန) |

၁၁ . ၃ . ၁၄

၆၄၀၀/၁၄ ၁၂၈၄၉ - ၄၈၀၁၁၀%

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
REPUBLIC OF THE UNION OF MYANMAR

အခွန်တံဆိပ်ခေါင်း
REVENUE STAMP

၅၀၀၀၀၀ကျပ် K 500000

| | |
|---|---|
| ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော် အထူးကပ်တံဆိပ်ခေါင်း 110733 SPECIAL ADHESIVE ၅၀၀၀၀၀ကျပ် K 500000 | ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော် အထူးကပ်တံဆိပ်ခေါင်း 110738 SPECIAL ADHESIVE ၅၀၀၀၀၀ကျပ် K 500000 |
| ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော် အထူးကပ်တံဆိပ်ခေါင်း 110734 SPECIAL ADHESIVE ၅၀၀၀၀၀ကျပ် K 500000 | ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော် အထူးကပ်တံဆိပ်ခေါင်း 110739 SPECIAL ADHESIVE ၅၀၀၀၀၀ကျပ် K 500000 |
| ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော် အထူးကပ်တံဆိပ်ခေါင်း 110735 SPECIAL ADHESIVE ၅၀၀၀၀၀ကျပ် K 500000 | ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော် အထူးကပ်တံဆိပ်ခေါင်း 110740 SPECIAL ADHESIVE ၅၀၀၀၀၀ကျပ် K 500000 |
| ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော် အထူးကပ်တံဆိပ်ခေါင်း 110736 SPECIAL ADHESIVE ၅၀၀၀၀၀ကျပ် K 500000 | ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော် အထူးကပ်တံဆိပ်ခေါင်း 110741 SPECIAL ADHESIVE ၅၀၀၀၀၀ကျပ် K 500000 |
| ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော် အထူးကပ်တံဆိပ်ခေါင်း 110737 SPECIAL ADHESIVE ၅၀၀၀၀၀ကျပ် K 500000 | ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော် အထူးကပ်တံဆိပ်ခေါင်း 110742 SPECIAL ADHESIVE ၅၀၀၀၀၀ကျပ် K 500000 |

## "မြေကွက် အပြီးအပိုင်အရောင်းအဝယ်စာချုပ်" ၅%

၂၅၀၀၀၀၀

အပိုင်ရောင်းချသူများ။ ၁။ဒေါ်ဗွီုင်အိုလက်ခင်အောင်(ခ)ဒေါ်ခင်ဝင်း(ဘ)ဦးဂျိုဆင်

၁၂/ဗဟန(နိုင်)၀၇၀၁၈၁

၂။ဦးအောင်ခင်(ဘ)ဦးခင်အောင် ၃၁/၁၀/၁၄

၁၂/ဗဟန(နိုင်)၀၂၉၇၉၇

**မြေငှားရမ်းခြင်း ကတိစာချုပ်**

LEASE AGREEMENT

_______________ ရက်နေ့၊ ____________ မြို့၊ မြန်မာနိုင်ငံတွင် **ဤမြေငှားရမ်းခြင်း ကတိစာချုပ်** (ဤ **ကတိစာချုပ်**) အားအောက်ပါ ပုဂ္ဂိုလ်များကြား၌ ပြုလုပ်ပါသည်။

**THIS LEASE AGREEMENT** (this "**Agreement**") is made in _____________, Myanmar on this date of _______________ by and between:

(က) **ဒေါ်ညွန့်ညွန့်ဌေး** (ဤနေရာမှစ၍ "**ပိုင်ရှင်**" ဟုဖော်ပြမည်ဖြစ်ပြီး ထိုသို့ဖော်ပြချက်တွင် ၎င်း၏ အမွေဆက်ခံသူများ၊ တရားဝင် ကိုယ်စားလှယ်များနှင့် တရားဝင်ခွင့်ပြုထားသောခန့်အပ်သူများ ပါဝင်သည်ဟု မှတ်ယူစေရမည်။) ၊နိုင်ငံသားမှတ်ပုံတင်နံပါတ် ၁၂/မဘန(နိုင်)၀၈၅၅၄၁ အား ကိုင်ဆောင်ပြီး အမှတ် ၁၅၊ ပြည်လမ်း၊ ဆက်သာတောရွာ၊ မှော်ဘီမြို့နယ်၊ ရန်ကုန်မြို့၌ နေထိုင်သူနှင့်

A. **Daw Nyunt Nyunt Htay** (hereinafter referred to as "**Lessor**", which expression, where the context so admits shall include its successors, legal representatives and permitted assigns), holder of NRC No.12/Ma Ba Na (N) 085541, having its residential address at No.15, Pyay Road, South Thardaw Qt., Hmawbi Tsp., Yangon; and

(ခ) [**Guanghe Industry Myanmar Company Limited**][1](ဤနေရာမှစ၍ "**ငှားရမ်းသူ**" ဟု ဖော်ပြမည်ဖြစ်ပြီး ထိုသို့ဖော်ပြချက်တွင် ၎င်း၏ အမွေဆက်ခံသူများ၊ တရားဝင် ကိုယ်စားလှယ်များနှင့် တရားဝင်ခွင့်ပြုထားသောခန့်အပ်သူများပါဝင်သည်ဟုမှတ်ယူစေရမည်။)၊ကုမ္ပဏီမှတ်ပုံတင်အမှတ်__________________ ဖြင့် မြန်မာနိုင်ငံ၏ ဥပဒေများနှင့်အညီဖွဲ့စည်းတည်ရှိပြီး ကွင်းအမှတ် ၅၂၁/က၊ မြေကွက်အမှတ် ၁/၂+၂/၄၊ မင်္ဂလာဒုံမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး၌ ရုံးခန်းတည်ရှိပြီး၊ မြန်မာနိုင်ငံတွင် မှတ်ပုံတင်ထားသော ကုမ္ပဏီမှ ကိုယ်စားပြုသည့် နိုင်ငံကူးလက်မှတ် နံပါတ် E46400356 အား ကိုင်ဆောင်သော ဦးဆောင်ညွှန်ကြားရေးမှူး MR.Luo,GuoYun။

B. [**Guanghe Industry Myanmar Company Limited**][2] (hereinafter referred to as "**Lessee**", which expression, where the context so admits shall include its successors, legal representatives and permitted assigns), a company organized and existing under the laws of Myanmar, with company registration no. ________________, having its registered office address at Kwin No.521/A, Holding No-1/2+2/4. MingalarDon Township Yangon District, Myanmar， represented by its Managing Director, MR. Luo,GuoYun, holder of passport no. E46400356 .

ဤကတိစာချုပ်၏ ရည်ရွယ်ချက်အရ ပိုင်ရှင်နှင့် ငှားရမ်းသူတို့ကိုတစ်ဦးချင်းစီအားဖြင့် "အဖွဲ့" ဟူ၍ လည်းကောင်း၊ ပေါင်းစုခြင်းအားဖြင့် "အဖွဲ့များ" ဟူ၍ လည်းကောင်း ရည်ညွှန်းဖော်ပြမည်။

For the purposes of this Agreement, each of the Lessor and Lessee shall also be referred to individually, as the "**Party**" and collectively, as the "**Parties**".

ဤနေရာမှစတင်၍ပြဌာန်းသော စာချုပ်တွင် အပြန်အလှန်ကတိပြုခြင်းအားဖြင့် အဖွဲ့များကြားတွင် ၎င်းအား အောက်ပါအတိုင်း သဘောတူညီပါသည်။

In consideration of the mutual covenants hereinafter set forth, **IT IS HEREBY AGREED** by and between the Parties as follows:

**၁။ မြေနေရာ**

**1. LAND**

၁.၁ ပိုင်ရှင်မှ ငှားရမ်းသူအား ငှားရမ်း၍ ငှားရမ်းသူမှ **နောက်ဆက်တွဲ (က)** (**"မြေနေရာ"**) ရှိ မြေပုံတွင် အနီရောင်ဖြင့် ပိုင်းခြားသတ်မှတ်ထားသော မြန်မာနိုင်ငံ ရန်ကုန်တိုင်းဒေသကြီး၊ မင်္ဂလာဒုံမြို့နယ်၊ မြေတိုင်းရပ်ကွက်အမှတ် ၅၂၁/က၊ အမှတ် ၁/၂+၂/၄တွင်တည်ရှိသည့်စုစုပေါင်းဧရိယာ ၂.၆၇ ဧက ကျယ်ဝန်းသော မြေနေရာအား ငှားယူပါသည်။

1.1 Lessor hereby leases to Lessee and Lessee rents from Lessor the land measuring a total area of 2.67 acres, located at Kwin No. 521/A, Holding No. 1/2+2/4, MingalarDon Township, Yangon Region, Myanmar, as demarcated in red on the land map at Annex A (**"Land"**).

၁.၂ နောက်ပိုင်းတွင် သောက်သုံးရေ ထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်း စီးပွားရေးလုပ်ငန်းများ လုပ်ဆောင်ရန် ("**ရည်ရွယ်ချက်များ**") နှင့် **နောက်ဆက်တွဲ (ခ)** (**"အဆောက်အအုံများ"**) ရှိ စက်ရုံဆောက်မည့် ပန္နက်ပုံနှင့်သက်ဆိုင်သော ထည့်သွင်းစဉ်းစားမှုများအပါအဝင် အဆောက်အအုံများနှင့် အခြေခံအဆောက်အဦးများ ဆောက်လုပ်ခြင်း၏ ရည်ရွယ်ချက်များအတွက် မြေနေရာအား ငှားရမ်းသူမှ အသုံးပြုသွားမည် ဖြစ်ပါသည်။

1.2 The Land shall be used by the Lessee for the purposes of constructing of buildings and infrastructures including those reflected on the Factory Layout Plan at Annex B (**"Buildings"**), as well as subsequent purified drinking water production and sales business ("**Purposes**").

၁.၃ အထက်တွင်ဖော်ပြထားသော အဆောက်အအုံများနှင့် မြေနေရာအား ပေါင်းစည်းပြီး ဤနေရာမှစ၍ "အဆောက်အအုံနှင့် ယင်းဥပစာ" ဟု စုပေါင်းကာ ရည်ညွှန်းဖော်ပြမည် ဖြစ်ပါသည်။

1.3 The Land together with the Buildings as described above shall hereinafter be referred collectively as the "**Premises**".

**၂။ အကျိုးသက်ရောက်သော ရက်စွဲနှင့် အချိန်ကာလ**

**2. EFFECTIVE DATE AND TERM**

၂.၁ ဤမြေငှားရမ်းခြင်းကတိစာချုပ်၏ အကျိုးသက်ရောက်သောရက်စွဲသည် မြန်မာ့ရင်းနှီးမြှုပ်နှံမှုဆိုင်ရာကော်မရှင်၏ အတည်ပြုချက်အရ အဖွဲ့များမှ ဤမြေငှားရမ်းခြင်းကတိစာချုပ်တွင် လက်မှတ်ရေးထိုးသည့်အချိန်မှစတင်မည်။ မြန်မာ့ရင်းနှီး မြှုပ်နှံမှုဆိုင်ရာကော်မရှင်၏ အတည်ပြုမိန့်

ရရှိရန်လျှောက်ထားရန် အငှားရယူသူမှတာဝန်ယူမည်ဖြစ်ပြီး လျှောက်ထားရန်ခန့် မှန်းကြာချိန်မှာ (၁)နှစ် အတွင်းဖြစ်သည်။

2.1 The effective date of this Lease Agreement shall be date on which this Lease Agreement is signed by both the Parties, with the approval of the Myanmar Investment Commission ("**MIC**") ("**Effective Date**").

၂.၂ မြေနေရာအား ငှားရမ်းခြင်း အချိန်ကာလသည် အကျိုးသက်ရောက်သောရက်စွဲမှ နှစ် သုံးဆယ် (၃၀) ဖြစ်မည်။

2.2 The Term of lease of the Land shall be thirty (30) years ("**Term**") commencing from the Effective Date.

၂.၃ စာချုပ်၏ အချိန်ကာလအတွက် ဤမြေငှားရမ်းခြင်းကတိစာချုပ်အား သတ်မှတ်သောအချိန်နှင့် ကိုက်ညီစွာ မှတ်ပုံတင်ခြင်း ("**ငှားရမ်းမှုအား မှတ်ပုံတင်ခြင်း**")ကို အကျိုးသက်ရောက်မှုရှိ စေရန်လို အပ်သော မည်သည့်ဆောင်ရွက်ချက်၊ အကြောင်းအရာနှင့် ကိစ္စရပ်များကိုမဆို အဖွဲ့များမှ(၁) မြေငှားရမ်းခြင်းကတိစာချုပ်နှင့် ယင်းနှင့်စပ်လျဉ်းသော ဖြည့်စွက်ချက်များအပေါ်တွင် ပြည်တွင်း အခွန်ဌာနမှ တောင်းခံသော သင့်တော်သည့် တံဆိပ်ခေါင်းခွန်နှင့်၊ (၂) မှော်ဘီမြို့နယ် မြေယာမှတ်တမ်းဌာန သို့မဟုတ် အခြားသင့်တော်သော အစိုးရဌာနများမှ တောင်းခံသော မှတ်ပုံတင်ခြင်းဆိုင်ရာ ဝန်ဆောင်ခများကို ငှားရမ်းမှုအား မှတ်ပုံတင်ခြင်း၏ ရည်ရွယ်ချက်များအားလုံး အတွက် ငှားရမ်းသူမှ ပေးအပ်ခြင်းကို ဆောင်ရွက်ရန်သဘောတူပါသည်။

2.3 The Parties agree to do any act, thing or matter necessary to effect due and timely registration of this Lease Agreement for the Term ("**Lease Registration**") with the Hmawbi Township Land Records Department or other relevant Government Department, provided that Lessee shall pay (i) applicable stamp duties levied by the Internal Revenue Office on the Lease Agreement or addendums thereto; and (ii) registration fees levied by the Hmawbi Township Land Records Department or other relevant Government Department, all for the purposes of Lease Registration.

၃ ငှားရမ်းခများ

3. RENTAL FEES

၃.၁ မြေနေရာအား ငှားရမ်းခြင်းအတွက် ငှားရမ်းသူမှ ပိုင်ရှင်အား သတ်မှတ်ထားသည့် USD ၁,၅၂၉,၂၂၀ (အမေရိကန်ဒေါ်လာ တစ်သန်း ငါးသိန်း နှစ်သောင်း ကိုးထောင် နှစ်ရာ နှစ်ဆယ်) ("**ငှားရမ်းခများ**") အား အချိန်ကာလတစ်ခုလုံးအတွက် ပေးမည်ဖြစ်ပါသည်။

3.1 Lessee shall pay Lessor total rental fees for the lease of the Land fixed at a USD1,529,220 (United States Dollars One Million Five Hundred And Two Nine Thousand Two Hundred And Twenty only) for the entire Term ("**Rental Fees**").

၃.၂ ပေးချေခြင်းဆိုင်ရာ သတ်မှတ်ချက်များမှာ အောက်ပါ အရစ်ကျပေးချေခြင်း အဆင့်ဆင့်အား အခြေခံပါသည်။

3.2 The payment terms shall be in below progressive installment basis:

- ပထမအကြိမ် အရစ်ကျပေးချေခြင်းဖြစ်သော (USD၁၁၅,၅၀၀) (အမေရိကန်ဒေါ်လာ တစ်သိန်း တစ်သောင်း ငါးထောင် ငါးရာ) အား ဤမြေငှားရမ်းခြင်းကတိစာချုပ်တွင် လက်မှတ်ထိုးသောအခါ၌ ငှားရမ်းသူမှ ပေးချေမှုကို ပြုလုပ်မည်။
- The first installment down payment amounting (USD 115,500) (United States Dollars One Million Fifteen Thousand and Five Hundred only) shall be paid by Lessee upon signing of this Lease Agreement.

- ဒုတိယအကြိမ် အရစ်ကျပေးချေခြင်းဖြစ်သော (USD ၅၇,၇၅၀) (အမေရိကန်ဒေါ်လာ ငါးသောင်း ခုနစ်ထောင် ခုနစ်ရာ ငါးဆယ်)အား ဤမြေငှားရမ်းခြင်းကတိစာချုပ်တွင် လက်မှတ်ထိုးပြီး၍ တစ်နှစ် ပြည့်သောအခါတွင် ငှားရမ်းသူမှ ပေးချေမှုကို ပြုလုပ်မည်။

- The second installment down payment amounting (USD57,750) (United States Dollars Fifty-Seven Thousand Seventy Hundred and fifty only) shall be paid by Lessee at the end of the 1st year after signing of this Lease Agreement.

- တတိယအကြိမ် အရစ်ကျပေးချေခြင်းဖြစ်သော (USD ၅၇,၇၅၀) (အမေရိကန်ဒေါ်လာ ငါးသောင်း ခုနစ်ထောင် ခုနစ်ရာ ငါးဆယ်) အား ဤမြေငှားရမ်းခြင်းကတိစာချုပ်တွင် လက်မှတ်ထိုးပြီး၍ နှစ် နှစ်ပြည့်သောအခါတွင် ငှားရမ်းသူမှ ပေးချေမှုကို ပြုလုပ်မည်။
- The third installment down payment amounting (USD 57,750) (United States Dollars Fifty-Seven Thousand Seven Hundred and fifty only) shall be paid by Lessee at the end of the 2nd year after signing of this Lease Agreement.

- စတုတ္ထအကြိမ် အရစ်ကျပေးချေခြင်းဖြစ်သော (USD ၂၃၁,၀၀၀) (အမေရိကန်ဒေါ်လာ နှစ်သိန်း သုံးသောင်း တစ်ထောင်)အား ဤမြေငှားရမ်းခြင်း ကတိစာချုပ်တွင် လက်မှတ်ထိုးပြီး၍ ငါးနှစ်ပြည့်သောအခါတွင် ငှားရမ်းသူမှ ပေးချေမှုကို ပြုလုပ်မည်။
- The fourth installment down payment amounting (USD 231,000) (United States Dollars Two Million and Thirty One Thousand only) shall be paid by Lessee at the end of the 5th year after signing of this Lease Agreement.

- ပဉ္စမအကြိမ် အရစ်ကျပေးချေခြင်းဖြစ်သော (USD ၂၅၄,၁၀၀) (အမေရိကန်ဒေါ်လာ နှစ်သိန်း ငါးသောင်း လေးထောင့် တစ်ရာ) အား ဤမြေငှားရမ်းခြင်းကတိစာချုပ်တွင် လက်မှတ်ထိုးပြီး၍ ဆယ်နှစ်ပြည့်သောအခါတွင် ငှားရမ်းသူမှ ပေးချေမှုကို ပြုလုပ်မည်။
- The fifth installment down payment amounting (USD 254,100) (United States Dollars Two Million Fifty Four Thousand and One Hundred only) shall be paid by Lessee at the end of the 10th year after signing of this Lease Agreement.

- ဆဋ္ဌမအကြိမ် အရစ်ကျပေးချေခြင်းဖြစ်သော (USD ၂၅၄,၁၀၀) (အမေရိကန်ဒေါ်လာ နှစ်သိန်း ငါးသောင်း လေးထောင့် တစ်ရာ) အား ဤမြေငှားရမ်းခြင်းကတိစာချုပ်တွင် လက်မှတ်ထိုးပြီး၍ တစ်ဆယ့်ငါးနှစ်ပြည့်သောအခါတွင် ငှားရမ်းသူမှ ပေးချေမှုကို ပြုလုပ်မည်။
- The sixth installment down payment amounting (USD 254,100) (United States Dollars Two Million Fifty Four Thousand and One Hundred only) shall be paid by Lessee at the end of the 15th year after signing of this Lease Agreement.

- သတ္တမအကြိမ် အရစ်ကျပေးချေခြင်းဖြစ်သော (USD ၂၇၉,၅၁၀) (အမေရိကန်ဒေါ်လာ နှစ်သိန်း ခုနစ်သောင်း ကိုးထောင် ငါးရာ့ တစ်ဆယ်) အား ဤမြေငှားရမ်းခြင်းကတိစာချုပ်တွင် လက်မှတ်ထိုးပြီး၍ နှစ် နှစ်ဆယ်ပြည့်သောအခါတွင် ငှားရမ်းသူမှ ပေးချေမှုကို ပြုလုပ်မည်။
- The seventh installment down payment amounting (USD 279,510) (United States Dollars Two Million Seventy Nine Thousand Five Hundred and Ten only) shall be paid by Lessee at the end of the 20th year after signing of this Lease Agreement.

- နောက်ဆုံးအကြိမ် အရစ်ကျပေးချေခြင်းဖြစ်သော (USD ၂၇၉၅၁၀) (အမေရိကန်ဒေါ်လာ နှစ်သိန်း ခုနစ်သောင်း ကိုးထောင် ငါးရာ့ တစ်ဆယ်) အား ဤမြေငှားရမ်းခြင်းကတိစာချုပ်တွင် လက်မှတ်ထိုးပြီး၍ နှစ်ဆယ့် ငါးနှစ်ပြည့်သောအခါတွင် ငှားရမ်းသူမှ ပေးချေမှုကို ပြုလုပ်မည်။
- The last installment down payment amounting (USD 279510) (United States Dollars Two Million Seventy Nine Thousand Five Hundred and Ten only) shall be paid by Lessee at the end of the 25th year after signing of this Lease Agreement.

၃.၃ အပိုဒ်ငယ် ၃.၂ အရ ပေးအပ်သော ငှားရမ်းခအပြင် ငွေတောင်းခံလွှာတွင် ပိုင်ရှင်မှ ဖော်ပြထားသော ကုန်သွယ်မှုဆိုင်ရာ အခွန် (ယခုနှုန်းထား ၅% သို့မဟုတ် သင့်တော်သော သတ်မှတ်သည့် နှုန်းထား) အား ငှားရမ်းသူမှ ပေးမည်ဖြစ်သည်။

3.3 Commercial tax (5% at current rate or at the prevailing rate, as applicable) as invoiced by Lessor shall be paid by Lessee in addition to the Rental Fees paid under clause 3.2.

၃.၄ အောက်တွင်ဖော်ပြထားသော အချက်အလက်များအရ ပိုင်ရှင်၏ ဘဏ်စာရင်းထံသို့ အပိုဒ်ငယ် ၃.၂ နှင့်အညီ ငွေလွှဲပေးခြင်းဖြင့် ငှားရမ်းသူမှ ငှားရမ်းခပေးချေခြင်းကို ဆောင်ရွက်မည်ဖြစ်ပါသည်။

3.4 Lessee shall make payment of Rental Fees pursuant to clause 3.2 by way of remittance into the bank account of the Lessor, details of which are as follows:

| | | |
|---|---|---|
| အကျိုးခံစားသူ၏ အမည် | : | ***ဆုယုအိ ကုမ္ပဏီ လီမိတက်*** (မြေပိုင်ရှင်၏ကုမ္ပဏီ) |
| အကျိုးခံစားသူ၏ လိပ်စာ | : | အမှတ် ၁၅၊ ပြည်လမ်း၊ ဆက်သွားတော်ရွာ၊ မှော်ဘီမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး၊ မြန်မာနိုင်ငံ။ ဖုန်း - ၀၉၇၉၁၄၃၀၆၉၂ |
| ဘဏ် အမည် | : | မြန်မာ့ ရင်းနှီးမြှုပ်နှံမှုနှင့် ကူးသန်းရောင်းဝယ်ရေး ဘဏ် (MICB ဘဏ်) |
| ဘဏ် လိပ်စာ | : | အမှတ် ၁၇၀-၁၇၆၊ ဗိုလ်အောင်ကျော်လမ်း၊ ရန်ကုန်မြို့၊ မြန်မာ။ |
| ဘဏ်စာရင်း အမှတ် | : | FDS101976 |
| ဘဏ်သင်္ကေတ | : | MICBMMMY |

| | | |
|---|---|---|
| Beneficiary Name | : | **Su Yu Ei Co., Ltd.** (Lessor Company) |
| Beneficiary Address | : | No.15, Pyay Road, Satthwardaw Quarter, Hmawbi Township, Yangon District, Myanmar. Tel: 09791430692 |
| Bank Name | : | Myanmar Investment and Commercial Bank (MICB Bank) |
| Bank Address | : | No. 170-176, Bo Aung Kyaw Street, Yangon, Myanmar |
| Account No. | : | FDS101976 |

Swift Code : MICBMMMY

၃.၅ ဤမြေငှားရမ်းခြင်း ကတိစာချုပ်အရ ငှားရမ်းသူထံမှ ငှားရမ်းခကို လက်ခံရရှိပြီး တစ် (၁) ပတ် အတွင်း၌ ပိုင်ရှင်မှ လက်ခံရရှိကြောင်း ရေးသားတုံ့ပြန်မှုအား ငှားရမ်းသူထံ ပေးပို့ရန် တာဝန်ယူရပါမည်။

3.5 Lessor undertakes to issue to Lessee a written acknowledgement of receipt within one (1) calendar week after receipt of Rental Fees from Lessee pursuant to this Agreement.

## ၄ ဝန်ဆောင်မှုများ သို့မဟုတ် ဝန်ဆောင်မှုပေးသည့်လုပ်ငန်းများ နှောင့်နှေးခြင်း

## 4. INTERRUPTION OF SERVICES OR UTILITIES

မြေနေရာ၌ ပြုပြင်ထိန်းသိမ်းထားသော သို့မဟုတ် ပြုပြင်ထိန်းသိမ်းရန် လိုအပ်သော ဝန်ဆောင်မှုများ သို့မဟုတ် ဝန်ဆောင်မှုပေးသော လုပ်ငန်းများအား အနှောင့်အယှက်၊ စက်ပိုင်းဆိုင်ရာ ချွတ်ယွင်းမှု သို့မဟုတ် အခြားသော ကိစ္စများကြောင့် နှောင့်နှေးခြင်းများ ဖြစ်ပေါ်လာလျှင် ပိုင်ရှင်မှ ထိုသို့သော ကိစ္စများကိုအကောင်းဆုံးလုပ်ဆောင်ချက်များဖြင့်တာဝန်ယူ၍ ပိုင်ရှင်မှ လုပ်ဆောင်ပေးနိုင်မည်ဖြစ်သော ထိုဝန်ဆောင်မှုများ၊သို့မဟုတ်ဝန်ဆောင်မှုပေးသောလုပ်ငန်းများအားနှောင့်နှေးမှုမရှိဘဲပြန်လည်ထိန်းသိမ်းပေးရမည်။

In the event of interruption, whether due to strikes, mechanical difficulties or other causes, of any services or utilities maintained or required to be maintained at the Land, Lessor undertakes to exercise best efforts to take such measures as may be available to the Lessor to have such service or utilities restored without undue delay.

## ၅ ပေးဆပ်ရန်ရှိသော တာဝန်နှင့် လျော်ကြေးငွေ

## 5. LIABILITY AND INDEMNITY

၅.၁ ဤကတိစာချုပ်၏ ဆောင်ရွက်ချက်တွင် ပိုင်ရှင် သို့မဟုတ် ပိုင်ရှင်၏ ဝန်ထမ်း၊ ရုံးအရာရှိများ၊ ကိုယ်စားလှယ်များ သို့မဟုတ် စာချုပ်ခွဲ ချုပ်ဆိုသူများ၏ ဆောင်ရွက်ချက်များ သို့မဟုတ်

ထိမ်ချန်ချက်များမှ ဖြစ်ပေါ်လာသောကြားခံအဖွဲ့အစည်းများမှ တောင်းဆိုမှုများကို ကိုင်တွယ်ဖြေရှင်းရန် ပိုင်ရှင်မှ တာဝန်ရှိသည်။

5.1 Lessor shall be responsible for dealing with any claims by third parties arising from the acts or omissions of Lessor, or Lessor's employees, officers, agents, or sub-contractors, in the performance of this Agreement.

၅.၂ ၎င်း၏ အလုပ်အကိုင်နှင့် မြေနေရာအား အသုံးပြုခြင်း၊ ငှားရမ်းသူ သို့မဟုတ် ငှားရမ်းသူ၏ ဝန်ထမ်း၊ ရုံးအရာရှိများ၊ ကိုယ်စားလှယ်များ သို့မဟုတ် စာချုပ်ခွဲ ချုပ်ဆိုသူများ၏ ဆောင်ရွက်ချက်များ သို့မဟုတ် ထိမ်ချန်ချက်များမှဖြစ်ပေါ်လာသော ကြားခံအဖွဲ့အစည်းများမှ တောင်းဆိုမှုများကို ကိုင်တွယ်ဖြေရှင်းရန် ငှားရမ်းသူမှ တာဝန်ရှိသည်။

5.2 Lessee shall be responsible for dealing with any claims by third parties arising from its occupation and use of the Land and attributable to the acts or omissions of Lessee or Lessee's employees, officers, agents, or sub-contractors.

## ၆ ငှားရမ်းသူ၏ အထွေထွေ တာဝန်များ

## 6. GENERAL OBLIGATIONS OF LESSEE

ဤကတိစာချုပ်တွင် ပြဋ္ဌာန်းထားသော တာဝန်များအပြင် စာချုပ်ကာလအတွင်း၌ အောက်ပါ အချက်အလက်များကို ငှားရမ်းသူမှ တာဝန်ယူဆောင်ရွက်မည်ဟု ပိုင်ရှင်အား ကတိပြုပါသည်။

In addition to the obligations set out elsewhere in this Agreement, Lessee undertakes to and covenants in favour of Lessor, that during the Term, Lessee shall:

(က) ဤကတိစာချုပ်တွင် သဘောတူညီထားသည့်အတိုင်း ငှားရမ်းခများကို ပေးအပ်မည်။ ဤကတိစာချုပ်တွင် ဖော်ပြခဲ့သည်များမှလွဲ၍ အခြားသော ပေးချေခြင်းများကို ငှားရမ်းသူမှ ပိုင်ရှင်အား ပေးအပ်ရန် တာဝန်မရှိပါ။

(i) pay rental fees to Lessor as agreed herein. Lessee shall not be liable to make any other payments to Lessor under this Agreement other than as aforementioned;

(ခ) မြေကွက်အငှားရယူပြီး အဆောက်အအုံများဆောက်လုပ်ပြီး သောက်ရေသန့် ထုတ်လုပ်ခြင်းအတွက် အသုံးပြုမည်ဖြစ်ပြီး ထို့နောက်တွင် သောက်သုံးရေ ထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်း စီးပွားရေးလုပ်ငန်များ ဆောင်ရွက်မည်။

(ii) utilize the Land for the purpose of construction of Buildings thereafter to conduct purified drinking water production and sales business;

(ဂ) မြေကွက်၏ငှားရမ်းခသည် အဆောက်အဦးများ၏ တည်ဆောက်ခြင်း ပြီးစီးသည်ဖြစ်စေ(သို့) ပြီးစီးမှုမရှိသည်ဖြစ်စေ ၂၀၁၉ခုနှစ်၊ ဧပြီလ၊ ၁ရက်နေ့မှစတင်တွက်ချက်ပေးဆောင်ရမည်ဖြစ်သည်။

The lease term and the rental shall be calculated from April 1st, 2019 (01/04/2019) whether the building contractions complete or not.

(ဃ) ဤစာချုပ်ချုပ်ဆိုပြီး အကျိုးသက်ရောက်သောနေ့မှစ၍ တည်ဆောက်မှုပထမအပိုင်း၏ တည်ဆောက်မှုကာလသည် ၁၈ လအတွင်းပြီးစီးအောင်တည်ဆောက်ရမည်။

(iii) accomplish first phase of construction of Buildings within 18 months from the effecting date of this Agreement;

(ဃ) ဖော်ပြပါ ရည်ရွယ်ချက်များအတွက်သာ မြေနေရာအား အသုံးပြုမည်ဖြစ်ပြီး အဆောက်အအုံနှင့် ယင်းဥပစာအတွင်းတွင် တရားဥပဒေနှင့် ညီညွတ်ခြင်းမရှိသော သို့မဟုတ် စောင့်စည်းမှုမရှိသော လုပ်ဆောင်ချက်များကို ပြုလုပ်မည် မဟုတ်ပါ။

(iv) use the Land for the Purposes and shall not conduct any illegal or immoral activities on the Premises;

(င) အဆောက်အအုံနှင့် ယင်းဥပစာအတွင်းတွင် ငှားရမ်းသူ၏ ဆောင်ရွက်ချက်များနှင့် ဆက်စပ်မှုရှိသော သင့်တော်သည့် အစိုးရဌာနများမှ တောင်းခံမည့် လိုင်စင်နှင့်သက်ဆိုင်သော ဝန်ဆောင်ခများ၊ လျှပ်စစ်၊ ရေ နှင့် YCDC ၏ အခွန်အခများ အစရှိသော အသုံးဝန်ဆောင်မှု ကျသင့်ငွေများအားလုံးကို ပေးအပ်မည်။

(v) pay all licensing fees and utility bills that may be levied by the relevant Government Departments and YCDC Tax in relation to the conduct of Lessee’s business on the Premises;

(စ) အဆောက်အအုံနှင့် ယင်းဥပစာအတွင်းရှိ မိလ္လာနှင့် ရေပိုက် ဆက်သွယ်မှုစနစ်တွင် ငှားရမ်းသူမှ ဂရုပြုခြင်း မရှိသော၊ သင့်တော်မှု မရှိသော အသုံးပြုပုံများနှင့် လျစ်လျူရှုခြင်းများကြောင့် ဖြစ်ပေါ်လာသော ပိတ်ဆို့မှုများနှင့် တားဆီးမှုများ ဖြစ်ပေါ်လာပါက ထိုနေရာများအား ရှင်းလင်းရန် သို့မဟုတ် သန့်စင်ရန်အတွက် ကုန်ကျသောစရိတ်များကို ငှားရမ်းသူမှ ပေးမည်ဖြစ်ပြီး ပိုင်ရှင်မှ သင့်တော်သော အစိုးရဌာန သို့မဟုတ် စာချုပ်ချုပ်ဆိုသူများ၏ ဝန်ဆောင်မှုများအား ရယူနိုင်ရန် အချက်အလက်နှင့် အကူအညီများ ပေးရပါမည်။

(vi) where sanitary or plumbing apparatus on the Premises have become choked up or blocked due to careless or improper use or neglect by Lessee, procure and pay the costs of cleaning or clearing the same, in which case Lessor shall provide information and assistance in the procurement of services of the appropriate Government Department or contractor; and

(ဆ) အဆောက်အအုံနှင့် ယင်းဥပစာအတွင်းရှိ လျှပ်စစ်ဆိုင်ရာ တပ်ဆင်ခြင်းနှင့် လျှပ်စစ်ကြိုး သွယ်တန်းတပ်ဆင်ခြင်းများတွင် ငှားရမ်းသူမှ ဂရုပြုခြင်း မရှိသော၊ သင့်တော်မှု မရှိသော အသုံးပြုပုံများနှင့် လျစ်လျူရှုခြင်းများကြောင့် ဖြစ်ပေါ်လာသော အန္တရာယ်ရှိစေခြင်းများ ဖြစ်ပေါ်လာပါက ထိုနေရာများအား ပြုပြင်ရန်အတွက် ကုန်ကျသောစရိတ်များကို ငှားရမ်းသူမှ

ပေးမည်ဖြစ်ပြီး ပိုင်ရှင်မှ သင့်တော်သော အစိုးရဌာန သို့မဟုတ် စာချုပ်ချုပ်ဆိုသူများ၏ ဝန်ဆောင်မှုများအား ရယူနိုင်ရန် အချက်အလက်နှင့် အကူအညီများ ပေးရပါမည်။

(vii) where any electrical installation or wiring at the Premises becomes dangerous due to careless or improper use or neglect by Lessee, procure and pay the costs of repairing the same, in which case Lessor shall provide information and assistance in the procurement of services of the appropriate Government Department or contractor;

## ၇ ပိုင်ရှင်၏ အထွေထွေ တာဝန်များ

## 7. GENERAL OBLIGATIONS OF LESSOR

ဤကတိစာချုပ်တွင် ပြဋ္ဌာန်းထားသော တာဝန်များအပြင် စာချုပ်ကာလအတွင်း၌ အောက်ပါ အချက်အလက်များကို ပိုင်ရှင်မှ တာဝန်ယူဆောင်ရွက်မည်ဟု ငှားရမ်းသူအား ကတိပြုပါသည်။
In addition to the obligations set out elsewhere in this Agreement, Lessor undertakes to and covenants in favour of Lessee, that during the Term, Lessor shall:

(က) မြေနေရာကို ငှားရမ်းသူတစ်ဦးတည်းအား လက်ဝယ်ထားရှိစေခြင်းနှင့် အသုံးပြုစေခြင်း။

(i) provide Lessee with exclusive possession and use of the Land;

(ခ) ပိုင်ရှင် သို့မဟုတ် ပိုင်ရှင်၏ ဝန်ထမ်း၊ ရုံးအရာရှိများ၊ ကိုယ်စားလှယ်များ သို့မဟုတ် စာချုပ်ခွဲ ချုပ်ဆိုသူများမှ တောင်းဆိုသော ပိုင်ရှင် သို့မဟုတ် မည်သည့်ပုဂ္ဂိုလ်မဆို၏ ဝင်ရောက်စွက်ဖက်ခြင်း သို့မဟုတ် နှောင့်ယှက်ခြင်းများ မရှိစေဘဲ မြေနေရာ၏ ငြိမ်းအေးစွာ ပိုင်ဆိုင်မှုကို ငှားရမ်းသူအား ရရှိစေရမည်။

(ii) enable Lessee to have quiet enjoyment of the Land without interruption or disturbance by Lessor or any person claiming under the Lessor or Lessor's employees, officers, agents, or sub-contractors;

(ဂ) စီမံချက်အား ပြီးမြောက်စေခြင်းနှင့်၎င်း၏ နေ့စဉ် လုပ်ငန်းလည်ပတ်မှုများအား စီမံခန့်ခွဲခြင်းများ ဆောင်ရွက်ရာတွင် အပြည့်အဝ လုပ်ပိုင်ခွင့်နှင့် ဆောင်ရွက်နိုင်ရန် အကျိုးသက်ရောက်သော နေ့ရက်တွင် မြေနေရာ၏ လွတ်ဟာသော နေရာအား ငှားရမ်းသူထံ ပေးအပ်ရမည်ဖြစ်သည်။စာချုပ်ကာလအတွင်း၌ မည်သည့် ကြားနေ အဖွဲ့အစည်းမှ မြေနေရာအား ရယူခြင်း သို့မဟုတ် တောင်းဆိုခြင်းများ မရှိစေရန် ပိုင်ရှင်မှ သေချာစေရမည်။

(iii) deliver vacant possession of the Land to Lessee on and from the Effective Date and to accord complete freedom to Lessee in implementing the Project and managing its day to day operations. Lessor shall ensure that no third party shall have a right or claim to or over the Land during the Term;

(ဃ) မြေနေရာ၌ဆောက်လုပ်ခြင်း၊ပြန်လည်ပြုပြင်ခြင်းနှင့်တပ်ဆင်ခြင်းများ ဆောင်ရွက်ရာတွင်နှင့် နောက်ပိုင်းတွင် မြေနေရာနှင့်ယင်းဉပစာ၌ ငှားရမ်းသူ၏ စီးပွားရေးဆောင်ရွက်ခြင်းနှင့် လုပ်ငန်းလည်ပတ်ခြင်းများတွင် ငှားရမ်းသူအား တားဆီးခြင်း သို့မဟုတ် ပိတ်ဆို့ခြင်းများ မပြုရပါ။

(iv) not hinder or obstruct Lessee from carrying out construction, renovation and fitting out works at the Land and subsequently, the conduct of business and operations of the Lessee at the Premises;

(c) လိုအပ်သော အကူအညီများ ထောက်ပံ့ခြင်း၊ မှတ်တမ်းနှင့် အချက်အလက်များ အားလုံးကို ဖြည့်ဆည်းပေးခြင်းနှင့် မြေနေရာယင်းဉပစာတွင် ငှားရမ်းသူ၏ စီးပွားရေးဆောင်ရွက်ခြင်းအတွက်နှင့် ငှားရမ်းမှု ခွင့်ပြုချက်၏ အခေါ်အဝေါ်နှင့် သတ်မှတ်ချက်များနှင့်အညီ လိုက်နာရန် သို့မဟုတ် ဆောင်ရွက်နိုင်ရန်အတွက် သင့်တော်သော အစိုးရဌာနထံမှ သတ်မှတ်ထားသော မှတ်ပုံတင်ခြင်း၊ လိုင်စင်၊ ခွင့်ပြုချက်နှင့်အတည်ပြုချက်များကို ဆောင်ရွက်နိုင်ရန် ငှားရမ်းသူမှအကျိုးအကြောင်း သင့်တော်စွာလိုအပ်သည့်ဥပဒေ၊ ကိစ္စရပ် သို့မဟုတ် အချက်များကို ဆောင်ရွက်ပေးရမည်။

(v) provide all necessary assistance, furnish all records and information and do any act, matter or thing as are reasonably required by the Lessee to enable the Lessee to procure all requisite registrations, licenses, permits and approvals from relevant Government departments for the conduct of Lessee's business on the Premises and to comply or to facilitate compliance with the terms and conditions of the Grant of Lease;

(စ) အကျိုးသက်ရောက်မှုရှိသော ရက်စွဲမတိုင်မီအထိ မြေနေရာနှင့်ဆက်စပ်၍ အစိုးရ ငွေတောင်းခံချက်များနှင့် လျှပ်စစ်၊ ရေ အစရှိသော အသုံးဝန်ဆောင်မှု ကျသင့်ငွေများ အားလုံးကို ပေးအပ်မည်။

(vi) pay any and all Government charges and utility bills levied in connection with the Land up to the Effective Date;

(ဆ) လုံလောက်သော လျှပ်စစ်စွမ်းအင် အထောက်အပံ့၊ လိုအပ်သော နိုင်ငံတကာအား ဆက်သွယ်နိုင်သည့် တယ်လီဖုန်းများ၊ ဖက်စ် လိုင်းများနှင့် တယ်လက် လိုင်းများ ရယူရာတွင် အကူအညီပေးရမည်။

(vii) assist in getting sufficient electricity power supply, required IDD telephones, fax lines and telex lines;

(ဇ) တင်သွင်းသော ပစ္စည်းများ၊ ကိရိယာများ၊ အပိုပစ္စည်းများ သို့မဟုတ် စီမံချက်၏ ရည်ရွယ်ချက်များအတွက် ငှားရမ်းသူမှ လိုအပ်သည့်အလျောက် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ အခွန်လွတ်ငြိမ်းခွင့်နှင့် သက်သာရာရခြင်း၊ ပြဋ္ဌာန်းထားသောဥပဒေအရ အခွန်ပိတ်ရက်များ လျှောက်ထားရာတွင် ကူညီ၍ ထောက်ခံပေးရမည်။

(viii) assist and support Lessee in applying for tax exemptions and reliefs and statutory tax holidays under the Myanmar Investment Law, whether for the

import of materials, equipment, spare parts or otherwise, as may be required by Lessee for the purposes of the Project;

(ဈ) ဤစာချုပ်၏တရားဝင်အကျိုးသက်ရောက်သောနေ့မှစ၍ မြေအသုံးပြုခွင့် နှင့်ပတ်သက်၍ ပိုင်ဆိုင်မှုအရှုပ်အရှင်းပေါ်ပေါက်ခြင်း၊အပေါင်းထားခြင်း၊အာမခံထားရှိခြင်းတို့မပြုလုပ်ပါဟုကတိပြုရမည်။

(ix) ensure that there are no encumbrances, mortgages, liens or security interests existing over or on the Land as of the Effective Date, other than those created pursuant to this Agreement.

(ည) ဝန်းကျင်ဒေသမှ စီမံချက်အတွက် ထောက်ခံချက် ရယူရာတွင် ကူညီရမည်။

(x) assist Lessee in acquiring support for the Project from neighbourhood; and

(ဋ) အဆောက်အအုံများအတွက် ဆောက်လုပ်ရေးခွင့်ပြုချက်ရရှိရန် ငှားရမ်းသူအား ကူညီရမည်။

(xi) assist Lessee in applying construction permit for Buildings.

**၈ ကြိုတင် ညှိနှိုင်းချက်များ**

**8. PRIOR ACCRUALS**

အောက်တွင် ပါရှိသော အပိုဒ်ငယ် ၉ ၏ သတ်မှတ်ချက်များအရ အကျိုးသက်ရောက်မှုရှိသော ရက်စွဲမှ ရှိဆဲဖြစ်သော သို့မဟုတ် စတင်ဖြစ်ပေါ်လာသော သို့မဟုတ် ကြိုတင်မျှော်မှန်းရသော မြေနေရာမှ သို့မဟုတ် မြေနေရာနှင့် ဆက်စပ်၍ ဖြစ်ပေါ်လာသည့် (အစိုးရအား ပေးဆောင်ရမည်ဖြစ်သော အခွန်ပေးဆောင်ခြင်းများ၊ ငှားရမ်းခများနှင့် အခြား ကြားခံအဖွဲ့အစည်းများကို ပေးဆောင်ရမည်ဖြစ်သော ကျသင့်ငွေများ အပါအဝင်) ငွေကြေးပေးဆောင်ခြင်းများနှင့် တောင်းခံခြင်း များအတွက် ငှားရမ်းသူမှ လိုအပ်ခြင်း၊ လိုအပ်သည်ဟု ယူဆခြင်း သို့မဟုတ် တာဝန်ရှိခြင်း စသည်တို့ မရှိစေရန် ပိုင်ရှင်မှ သဘောတူညီပါသည်။

Subject to the provisions of clause 9 below, Lessor agrees that Lessee shall not be required to and will not assume, and shall not be responsible for any liabilities or claims (including tax liabilities, rental fees payable to the Government and any other charges payable to third parties) in relation to or arising from the Land, whether existing or accrued on or prior to the Effective Date.

## ၉ လျော်ကြေးပေးခြင်း

## 9. INDEMNIFICATION

အောက်ဖော်ပြပါ ကိစ္စများနှင့်ပတ်သက်၍ ၎င်းတို့အား ဆန့်ကျင်ပြီး ဖြစ်ပေါ်လာသော (သင့်တော် သော ဥပဒေရေးရာနှင့် အခြားသက်ဆိုင်ရာ ကုန်ကျငွေများ အပါအဝင်) ပိုင်ရှင်မှ ဖြစ်ပေါ်စေသော ပျောက်ဆုံး ခြင်း၊ ပျက်စီးခြင်း၊ ဒဏ်ကြေး၊ ပြစ်ဒဏ်၊ ကုန်ကျစရိတ်၊ အသုံးစရိတ် သို့မဟုတ် အခြားပေးရန် တာဝန်ရှိ သည်များအရ ရေးသားတောင်းခံချက်မှ ငှားရမ်းသူနှင့် ၎င်း၏ ဒါရိုက်တာများ၊ ရုံးအရာရှိများ၊ ကိုယ်စားလှယ်များနှင့် ဝန်ထမ်းများအား ပိုင်ရှင်မှ အာမခံ၍ အန္တရာယ်ကင်းစေမည် ဖြစ်သည်။

Lessor shall indemnify and hold harmless the Lessee and its directors, officers, agents and employees on written demand in respect of all loss, damage, fine, penalty, cost, expense or other liability (including reasonable legal and other professional fees) incurred by or awarded against them in connection with the items below, to the extent caused by Lessor:

(က) မြေနေရာနှင့်ပတ်သက်၍ ပိုင်ရှင်၏ လိမ်လည်မှု သို့မဟုတ် ရည်ရွယ်ချက်ဖြင့် ပြုလုပ်သော အပြုအမူ။

(i) any fraud or wilful misconduct of Lessor in connection with the Land;

(ခ) ပိုင်ရှင် သို့မဟုတ် ပိုင်ရှင်၏ ဝန်ထမ်း၊ စာချုပ် ချုပ်ဆိုသူများ သို့မဟုတ် ကိုယ်စားလှယ်များ၏ ပေါ့ဆမှုကြောင့် ဖြစ်ရသော မြေနေရာ၌ သေဆုံးခြင်း သို့မဟုတ် ကိုယ်ခန္ဓာတွင် ထိခိုက် ဒဏ်ရာရခြင်း။

(ii) death or personal injury at the Land caused by Lessor's negligence or that of Lessor's employees, contractors or agents;

(ဂ) အကျိုးသက်ရောက်မှုရှိသော ရက်စွဲမတိုင်မီတွင် မြေနေရာ၌ လုပ်ငန်းဆောင်ရွက်ခဲ့သော ပိုင်ရှင်၏ ယခင်ဝန်ထမ်းများမှ ငွေတောင်းခံမှုများ အပါအဝင် ကြားနေအဖွဲ့အစည်းများမှ ငွေတောင်းခံမှုများ နှင့်

(iii) claims by third parties including claims by former employees of the Lessor who worked at the Land prior to the Effective Date; and

(ဃ) မြေနေရာနှင့်ပတ်သက်၍ သက်ရောက်နိုင်သော ဥပဒေများအရ တရားရုံး၊ ခုံရုံး၊ တရားထိန်းသိမ်းရေးအဖွဲ့ သို့မဟုတ် အခြားသော အစိုးရအာဏာပိုင်များမှ သတ်မှတ်သော ဒဏ်ကြေးများ၊ ပြစ်ဒဏ်များနှင့် အခြားသော အရေးယူမှုများ။

(iv) fines, penalties and other sanctions imposed by any court, tribunal, regulator or other Governmental authority under applicable laws in connection with the Land.

**၁၀ အဆုံးသတ်ခြင်း**

**10. TERMINATION**

ဤကတိစာချုပ်အား (သဘောဖြောင့်မတ်စွာဖြင့်သာ) အောက်ပါပုံစံဖြင့် အဆုံးသတ်နိုင်သည်။

This Agreement may be terminated (only in good faith) in the following manner:

၁၀.၁ ပျက်ကွက်ခြင်းရှိသောအဖွဲ့သည် ဤကတိစာချုပ်အရ ၎င်း၏ အရေးကြီးသော တာဝန်များအား ပြီးမြောက်စေရန် သိသာမြင်လွယ်သည့် တာဝန်ကျေမှု မရှိဘဲ ပျက်ကွက်ခြင်းမရှိသောအဖွဲ့မှ ယင်းနှင့်သက်ဆိုင်သည့် ရေးသားအသိပေးချက်ကို လက်ခံရရှိပြီး သုံး (၃) လ ကြာသည်အထိ ထိုသို့သော တာဝန်မကျေခြင်းသည် ဆက်လက်ဖြစ်ပွားနေလျှင် ပျက်ကွက်ခြင်းမရှိသောအဖွဲ့မှ အပိုဒ်ငယ် ၁၀.၄ အရ ဤကတိစာချုပ်အား အဆုံးသတ်ရန် ရေးသားအသိပေးချက်ကို ပျက်ကွက်ခြင်းရှိသောအဖွဲ့ထံသို့ ချက်ချင်း ပေးပို့မည် ဖြစ်သည်။ ပျက်ကွက်ခြင်းမရှိသောအဖွဲ့မှ ရရှိနိုင်သော မည်သည့် လုပ်ပိုင်ခွင့် သို့မဟုတ် ကုစားခြင်းများကိုမဆို ပျက်ကွက်ခြင်းရှိသောအဖွဲ့မှ ထိခိုက်နစ်နာစေခြင်း မရှိဘဲ စာချုပ်ကာလ မတိုင်မီ သို့မဟုတ် ကုန်ဆုံးချိန်တွင် ဤကတိစာချုပ်အားအောက်ပါ မည်သည့် အကြောင်းပြချက်အတွက်မဆို အဆုံးသတ်မည်ဖြစ်သည်။

10.1 By the non-defaulting Party, where the defaulting Party fails to substantially fulfill any of its material obligations under this Agreement and such failure continues for a period of three (3) calendar months after receipt of a written notice thereof from the non-defaulting Party, in which case the non-defaulting Party may give immediate written notice to the defaulting Party to terminate this Agreement, subject to clause 10.4. Without prejudice to any other rights or remedies available to the non-defaulting Party against the defaulting Party, if this Agreement be terminated for any reason prior to expiry of the Term:

(က) ပိုင်ရှင်သည် ပျက်ကွက်ခြင်းရှိသော အဖွဲ့ဖြစ်လျှင် မြေနေရာမှ ငှားရမ်းသူ ထွက်ခွာသောရက်စွဲကို တွက်ချက်၍ မြေနေရာတွင် ငှားရမ်းသူမှ အမှန်တကယ်နေထိုင်သော ကာလနှင့်သက်ဆိုင်သည့် ငှားရမ်းခကို (အချိုးကျခြင်းကို အခြေခံ၍) နုတ်ပြီးသောအခါ ငှားရမ်းသူမှ ပေးအပ်သော ငှားရမ်းခ စုစုပေါင်း (သို့မဟုတ် ယင်းနှင့်သက်ဆိုင်သော ပမာဏ) ("**ပြန်အမ်းငွေ ပမာဏ**") ကို ပိုင်ရှင်မှ ငွေပြန်အမ်းရမည်။ ပြန်အမ်းငွေ ပမာဏအပြင် အကျိုးသက်ရောက်သော ရက်စွဲမှ တွက်ချက်၍ ဤကတိစာချုပ်တွင် ပါဝင်ပတ်သက်ခြင်းအရ မြေနေရာနှင့် ယင်းဥပစာတွင် ဆောက်လုပ်ခြင်းနှင့် ပြန်လည်ပြုပြင်ခြင်းတို့နှင့်သက်ဆိုင်သော ငှားရမ်းသူမှ ပေးဆောင်ရသည့် ကုန်ကျငွေ၊ အသုံးစရိတ်နှင့် တံဆိပ်ခေါင်းခွန်များ အားလုံး

(“**ကုန်ကျငွေ**”) အတွက် ပိုင်ရှင်မှ ငှားရမ်းသူထံသို့ ငွေပြန်ထုတ်ပေးရမည်။ စာချုပ်အဆုံးသတ်ခြင်း အသိပေးချက်အား ဆောင်ရွက်သည့်နေ့မှ နှစ်ဆယ့်တစ် (၂၁) ရက်အတွင်း၌ ပိုင်ရှင်မှ ငှားရမ်းသူထံသို့ ပြန်အမ်းငွေ ပမာဏနှင့် ကုန်ကျငွေများအား ပေးအပ်ရမည်။

(i) If Lessor is the defaulting Party, Lessor shall refund to Lessee the Gross Rental Fees (or any part thereof) paid by Lessee, after having deducted (on a pro-rata basis) the rent corresponding to the period of Lessee’s actual occupancy of the Land (“**Refund Amount**”), calculated from the date Lessee vacates the Land. In addition to the Refund Amount, Lessor shall reimburse Lessee for any and all costs, expenses and stamp duties incurred by Lessee in relation to the construction and renovation of the Premises or in connection with the entry into this Agreement (“**Costs**”), as calculated by Lessee from the Effective Date. The Refund Amount and Costs shall be paid by Lessor to Lessee within twenty-one (21) calendar days from the date of the Termination Notice.

(ခ) ငှားရမ်းသူသည် ပျက်ကွက်ခြင်းရှိသော အဖွဲ့ဖြစ်လျှင် ငှားရမ်းသူမှ ပိုင်ရှင်ထံသို့ ပေးအပ်သော ငှားရမ်းခ စုစုပေါင်း (သို့မဟုတ် ယင်းနှင့်သက်ဆိုင်သော ပမာဏ) ၏ ပေးချေမှုများကို ပိုင်ရှင်မှ ထိန်းသိမ်းနိုင်ခွင့် ရှိသည်။

(ii) If Lessee is the Defaulting Party, Lessor shall be entitled to retain payment of the Gross Rental Fees (or any part thereof) made to Lessor by Lessee.

၁၀.၂ မလွန်ဆန်နိုင်သော ဖြစ်ရပ်များသည် ခြောက် (၆) လ သို့မဟုတ် ထိုထက်ကြာသော ကာလအထိ ငှားရမ်းသူဘက်မှ ဖြစ်ပွားနေသောအခါတွင် အပိုဒ်ငယ် ၁၁ အရ ဤကတိစာချုပ်အား အဆုံးသတ်ရန် တစ် (၁) လကြိုတင်၍ အသိပေးချက်အား ငှားရမ်းသူမှ ပိုင်ရှင်ထံသို့ ပေးမည်ဖြစ်သည်။

10.2 By Lessee, due to the occurrence of a Force Majeure Event which continues for a period of six (6) calendar months or more, in which case, Lessee may give Lessor one (1) calendar months' notice to terminate this Agreement, subject to clause 11.

၁၀.၃ အဖွဲ့နှစ်ဖွဲ့မှ အပြန်အလှန် ရေးသားသဘောတူသော ပုံစံဖြင့် အဆုံးသတ်ရမည်။

10.3 By mutual agreement in writing from both Parties to terminate.

၁၀.၄ အဖွဲ့များမှ တစ်ဖွဲ့သည် ဤကတိစာချုပ်အား အဆုံးသတ်လိုသည့် ရည်ရွယ်ချက်အား ရေးသားခြင်းကို MIC ထံသို့ ကြိုတင်၍ အသိပေးရမည်ဖြစ်ပြီး ဤကတိစာချုပ် အဆုံးသတ်ခြင်းအား MIC ၏ အတည်ပြုချက်အရ ဆောင်ရွက်မည်။

10.4 Either of the Parties shall be required to inform MIC in advance in writing of its intention to terminate this Agreement and termination of this Agreement shall be subject to the approval of MIC.

**၁၁ မလွန်ဆန်နိုင်သော အဖြစ်**

**11. FORCE MAJEURE**

အဖွဲ့တစ်ဖွဲ့သည် ဤကတိစာချုပ်အရ ၎င်း၏ တာဝန်များကို (ဤနေရာမှစ၍ အနက်ဖွင့်ဆိုထားသော) မလွန်ဆန်နိုင်သောအဖြစ်၏ တစ်ခုလုံး သို့မဟုတ် တစ်စိတ်တစ်ပိုင်းကြောင့် ယာယီထမ်းဆောင်နိုင်ခြင်း မရှိပါက ထိုသို့သော မလွန်ဆန်နိုင်သည့်အဖြစ်၏ အချက်အလက်အပြည့်အစုံ (ဖြစ်ရပ်၏ ရက်စွဲ၊ အမျိုးအစား၊ ခန့်မှန်း ကာလနှင့် ထိုမလွန်ဆန်နိုင်သောအဖြစ်အား လျော့ပါးစေရန် ဆောင်ရွက်ခဲ့သည်များ အပါအဝင်) ကို ပေး၍ ၎င်းအပေါ်တွင် မူတည်စေခဲ့သော ဖြစ်ပွားမှုအပြီး ဆယ့်လေး (၁၄) ရက် အတွင်း၌ ထိခိုက်မှု ခံစားရသော အဖွဲ့မှ အခြားအဖွဲ့အား ရေးသားအသိပေးချက်ကို ပေးပို့ရမည်။ ထိုမလွန်ဆန်နိုင်သောအဖြစ်မှ ထိခိုက်မှု ခံစားရသော အဖွဲ့ ("ထိခိုက်သော အဖွဲ့") ၏ တာဝန်များ၌ မလွန်ဆန်နိုင်သောအဖြစ် ဆက်လက်ဖြစ်ပွားနေသော ကာလအတွင်း၌ ဆိုင်းငံ့ထားမည်ဖြစ်ပြီး ထိုထိခိုက်သောအဖွဲ့မှ ၎င်း၏ တာဝန်များ ဆောင်ရွက်ရာတွင်

မလွန်ဆန်နိုင်သော အဖြစ်ကြောင့် နှောင့်နှေးခြင်း၊ ပျက်ကွက်ခြင်း၊ ပျက်စီးခြင်းနှင့် ပျောက်ဆုံးခြင်းများအတွက် တာဝန်ရှိမည် မဟုတ်ပါ။ "မလွန်ဆန်နိုင်သောအဖြစ်အပျက်" ဟူသော အခေါ်အဝေါ်တွင် ဤနေရာမှ စတင်ဖော်ပြထားသော ဘေးအန္တရာယ်၊ မုန်တိုင်း၊ စက်ရုံတွင်း ပဋိပက္ခ၊ အဖျက်အမှောင့်လုပ်ငန်း၊ စစ်ပွဲ၊ ပုန်ကန်မှု၊ အဓိကရုဏ်း၊ ဆူပူသောင်းကျန်းခြင်း၊ ပြည်တွင်းစစ်၊ အစိုးရ ဥပဒေ၊ အမိန့်နှင့် လုပ်ထုံးလုပ်နည်းများ၊ တားမြစ်မိန့်၊ မီး၊ ရေကြီးခြင်း၊ ပေါက်ကွဲမှု၊ ငလျင်၊ မတော်တဆမှု၊ တိုက်ခိုက်မှု သို့မဟုတ် ထိခိုက်သောအဖွဲ့မှ ထိန်းချုပ်မှုများ လုပ်နိုင်ခြေမရှိသော ကိစ္စများနှင့် ထိခိုက်သောအဖွဲ့မှ ဂရုပြုခြင်းနှင့် ကြိုးစားခြင်းများ ဆောင်ရွက်သော်လည်း ကျော်လွှားရန် မဖြစ်နိုင်သော ကိစ္စများ ပါဝင်သည်။

If either party is temporarily rendered unable, wholly or in part, by any Force Majeure Event (as defined hereafter) to perform its duties under this Agreement, it is agreed that the affected Party shall give written notice to the other Party within fourteen (14) calendar days after the occurrence of the cause relied upon, giving full particulars of such Force Majeure Event (including the date of commencement, the nature and expected duration thereof and the actions taken to try to mitigate the effects of such Force Majeure Event). The duties of such Party as are affected by such Force Majeure Event ("**Affected Party**") shall be suspended during the continuance of the Force Majeure Event and such Affected Party shall not be responsible for failure or delay in the performance of its duties, damage or loss caused by Force Majeure Event. The term "**Force Majeure Event**" as employed herein shall include an Act of God, strikes, lockout, industrial disturbances, acts of public enemy, war, embargo, sabotage, blockades, insurrections, riots, epidemics, civil disturbances, explosions, fires, flood, earthquakes, storms, lightning, and any other cause similar to the kind herein enumerated which are beyond the control of the Affected Party and which by the exercise of due care and diligence, the Affected Party is unable to overcome.

၁၂ **တာဝန်ပေးအပ်ခြင်းနှင့် တဆင့်ငှားရမ်းခြင်း**

12. **ASSIGNMENT AND SUBLETTING**

ပိုင်ရှင်ထံမှ ကြိုတင်ရေးသား ခွင့်ပြုချက်မရှိဘဲ ငှားရမ်းသူမှ မြေနေရာအား လွှဲပြောင်းခြင်း၊ တာဝန်ပေးအပ်ခြင်းနှင့် တဆင့်ငှားရမ်းခြင်းများ ပြုလုပ်မည် မဟုတ်ပါ။ ထိုသို့သောကြိုတင်ရေးသား ခွင့်ပြုချက်အား အကျိုးသင့်အကြောင်းသင့်မဟုတ်ဘဲ ထုတ်မပေးခြင်း၊ ကန့်သတ်ခြင်းနှင့် အချိန်ရွှေ့ဆိုင်းခြင်းများ ပြုလုပ်ရမည် မဟုတ်ပါ။ မြေနေရာရှိ ပိုင်ဆိုင်မှုအား ပိုင်ရှင်မှ တာဝန်ပေးအပ်ခြင်းနှင့် လွှဲပြောင်းခြင်းများ ပြုလုပ်လိုလျှင် ထိုသို့တာဝန်ပေးအပ်ခြင်းနှင့် လွှဲပြောင်းခြင်းများအား ငှားရမ်းသူထံ ချက်ချင်း အသိပေးရမည်ဖြစ်ပြီး မြေနေရာ၏ သို့မဟုတ် မည်သည့်အစိတ်အပိုင်းမဆို၏ အဆိုတင်သွင်းသော လွှဲပြောင်းခံရသူအား ဤကတိစာချုပ်၏ အခေါ်အဝေါ်နှင့် အခြေအနေများအရ ဆောင်ရွက်ရန် သေချာစေရမည်။

Lessee shall not transfer, assign or sublet the Land without the prior written consent of the Lessor, which consent shall not be unreasonably withheld, conditioned or delayed. If Lessor shall assign or transfer its interest in the Land, Lessor shall notify the Lessee immediately of the said assignment or transfer and shall ensure that the proposed transferee of the Land or any part thereof shall be made subject to the terms and conditions of this Agreement.

၁၃ **ဥပဒေများအား လိုက်နာခြင်း**

13. **COMPLIANCE WITH LAWS**

ပိုင်ရှင်နှင့် ငှားရမ်းသူတို့သည် ဤကတိစာချုပ်အရ ၎င်းတို့၏ သက်ဆိုင်ရာတာဝန် တစ်ခုစီနှင့် ဆက်စပ်၍ မြန်မာနိုင်ငံ၏ ဥပဒေများ၊ စည်းမျဉ်းများနှင့် လုပ်ထုံးလုပ်နည်းများကို လိုက်နာရမည်။

Lessor and Lessee shall comply with Myanmar laws, rules and regulations bearing upon the performance of each of their respective obligations under this Agreement.

၁၄ **ကိုယ်စားပြုခြင်းများနှင့် အာမခံများ**

## 14. REPRESENTATIONS AND WARRANTIES

၁၄.၁ ပိုင်ရှင်နှင့် ငှားရမ်းသူတို့ တစ်ဦးစီသည် အောက်ပါဖော်ပြချက်များအရ တာဝန်ယူခြင်း၊ ကိုယ်စားပြုခြင်းနှင့် အာမခံများကို ဆောင်ရွက်ရမည်။

14.1 Each of the Lessor and the Lessee undertakes, represents and warrants in favour of each other that:

(က) ၎င်းအား မြန်မာနိုင်ငံ၏ ဥပဒေများအရ မှန်ကန်စွာ ဖွဲ့စည်းထားခြင်း၊ တရားဝင် တည်ရှိခြင်းနှင့် ကောင်းမွန်စွာ လက်ဝယ်ထားရှိခြင်းများ ရှိစေရမည်။

(i) it is duly organized, validly existing and in good standing under the laws of Myanmar;

(ခ) ၎င်းတွင် ဤကတိစာချုပ်အရ စီမံဆောင်ရွက်ရန်၊ လွှဲပြောင်းပေးရန်၊ တာဝန်များကို ဆောင်ရွက်ရန်နှင့် ဤသို့ ချင့်ချိန်ခြင်းအားဖြင့် လုပ်ငန်းကိစ္စများကို လုပ်ဆောင်ရန် အာဏာနှင့် လုပ်ပိုင်ခွင့် အပြည့်အဝရှိရမည်။

(ii) it has full power and authority to execute, deliver and perform its obligations under this Agreement and to carry out the transactions contemplated hereby;

(ဂ) သက်ရောက်နိုင်သော ဥပဒေများအရ လိုအပ်သော ပူးပေါင်းဆောင်ရွက်ချက်များနှင့် အခြား လုပ်ဆောင်ချက်များကို ဆောင်ရွက်ရမည်ဖြစ်ပြီး ဤကတိစာချုပ်၏ အခြေခံဥပဒေနှင့် ကိုက်ညီသော စာရွက်စာတမ်းများကို အကောင်အထည်ဖော်ခြင်း၊ လွှဲပြောင်းပေးခြင်းနှင့် ဆောင်ရွက်ခြင်းများ ပြုလုပ်ရန် တရားဝင်ခွင့်ပြုရမည်။

(iii) it has taken all necessary corporate and other action under applicable laws and its constitutional documents to authorize the execution, delivery and performance of this Agreement;

(ဃ) သတ်မှတ်ချက်များနှင့်စပ်လျဉ်း၍ ပြဋ္ဌာန်းချက်များအား ဆန့်ကျင်မှုမရှိဘဲ ဤကတိစာချုပ်တွင် ဥပဒေနှင့်ညီသော၊ တရားဝင်သောနှင့် ဥပဒေအားလိုက်နာသော တာဝန်များ ပါဝင်သည်။

(iv) this Agreement constitutes its legal, valid and binding obligations enforceable against it in accordance with the terms hereof; and

(င) ဤကတိစာချုပ်၏ အကောင်အထည်ဖော်ခြင်း၊ လွှဲပြောင်းပေးခြင်းနှင့် ဆောင်ရွက်ခြင်းများတွင် အသင်းအဖွဲ့များ၏ သဘောတူစာချုပ်မူကြမ်းနှင့် စာချုပ်ပါ အချက်အလက်များ သို့မဟုတ် မည်သည့် သက်ရောက်နိုင်သော ဥပဒေများ တစ်ခုစီ၏ သက်မှတ်ချက်များအရ လုပ်ဆောင်ရန် ပျက်ကွက်မှုများ ပါဝင်သော ဥပဒေအား ချိုးဖောက်စေနိုင်သည့် သဘောထားကွဲလွဲမှုများ ပါဝင်မည်မဟုတ်ပါ။

(v) the execution, delivery and performance of this Agreement shall not conflict with, result in the breach of, constitute a default under the terms of each of the Parties' Memorandum and Articles of Association or any applicable laws.

၁၄.၂ မြေနေရာနှင့် ဆက်စပ်၍ ငှားရမ်းသူ၏ အောက်ပါအကျိုးများအတွက် တာဝန်ယူခြင်း၊ ကိုယ်စားပြုခြင်းနှင့် အာမခံခြင်းများကို ပိုင်ရှင်မှ ဆောင်ရွက်ပေးပါမည်။

14.2 In relation to the Land, the Lessor undertakes, represents and warrants in favour of the Lessee that:

(က) ၎င်းသည် မြေနေရာအတွက် တရားဝင်၍ အကျိုးပြုနိုင်သော ကိုစ္စဖြစ်လျှင်နှင့်

(i) it is the legal and beneficial owner of the Land; and

(ခ) မြေနေရာသည် မည်သည့် ဝန်ထုပ်ဝန်ပိုးမှမဆို ကင်းလွတ်ပြီး လက်ရှိ သို့မဟုတ် ထင်ရှားသော အငြင်းပွားဖွယ်ရာများ သို့မဟုတ် ဤကတိစာချုပ်အရ ပိုင်ရှင်၏ ပိုင်ဆိုင်မှု ဆောင်ရွက်ချက်များအား ဟန့်တားနိုင်သော တရားစွဲဆိုမှုများ မရှိလျှင်

(i) the Land are free from any encumbrances and that there are no current or outstanding disputes or litigation that can hinder the performance of the Lessor's obligations under this Agreement.

၁၄.၃ ဤကတိစာချုပ်၏ ရက်စွဲနှင့်အတူ ပြုလုပ်၍ အကျိုးသက်ရောက်သော ရက်စွဲနှင့် ငှားရမ်းခြင်းကာလ၏ နေ့ရက်တိုင်းတွင် အပိုဒ်ငယ် ၁၄.၁၊ ၁၄.၂ နှင့် ဤကတိစာချုပ်၏ အခြားနေရာများတွင်ပါရှိသော အဖွဲ့များ၏ သက်ဆိုင်ရာ ကိုယ်စားပြုခြင်းများနှင့် အာမခံခြင်းများအား အဖန်ဖန်ဖြစ်စေသည်ဟု မှတ်ယူပါမည်။

14.3 The respective representations and warranties by the Parties in clauses 14.1, 14.2 and elsewhere in this Agreement are made on the date of this Agreement and deemed to be repeated on the Effective Date and each day of the term of lease.

## ၁၅ သတိပေးချက်များ

## 15. NOTICES

၁၅.၁ အဖွဲ့များကြားရှိ ဤကတိစာချုပ်အရ ပေးအပ်ရန်လိုသော မည်သည့် သတိပေးချက်မဆိုနှင့် အခြားသော ဆက်သွယ်ရေးများအား အင်္ဂလိပ်ဘာသာဖြင့် ရေးသား၍ အခြားသောဖော်ပြချက်များ ပါရှိခြင်း မရှိလျှင် (၁) ကိုယ်တိုင် ကိုယ်ကျ ပေးပို့ခြင်း၊ (၂) အီလက်ထရွန်နစ် မေးလ် သို့မဟုတ် (၃) အောက်တွင် ဖော်ပြထားသော လိပ်စာ သို့မဟုတ် ဤကတိစာချုပ်နှင့်အညီ အသိပေးရေးသားခြင်းဖြင့် သတ်မှတ်ထားသော လက်ခံသူအား ရည်ရွယ်သည့် လိပ်စာသို့ စာတိုက်မှ ပို့ခြင်း စသည်တို့ဖြင့် ပေးပို့ရမည်။

15.1 Any notices and other communications between the Parties required to be given under this Agreement shall be in writing in English and unless otherwise provided, shall be delivered by (i) personal delivery; (ii) electronic mail; or (iii) post to the intended Party at the address below or such other address as the intended recipient shall have designated by written notice given pursuant to this Agreement:

